Tales from the Arabian Nights

# The Adventures of Sindbad the Sailor

Retold by ENID BLYTON

# မောင်သိန်းလွင်

# သင်္ဘောသားဆင်းဘတ်၏ စွန့်စားခန်းများ

ILLUSTRATED BY KO SAN 2002
GLORY GRAPHIC STUDIO

# အမှာစာ

သဘော်သား ဆင်းဘတ်၏ စွန့်စားခန်းများသည် အာရေဗျညများ (ARABIAN NIGHTS) ဟုလည်း ခေါ်သော "တစ်ထောင့်တစ်ညပုံပြင်များ" တွင် ပါဝင်သည့် ပုံပြင်တစ်ပုဒ် ဖြစ်သည်။ ထူးဆန်းအံ့သြဖွယ်ကောင်းသည့် သတ္တဝါများပါဝင်သောကြောင့်လည်း ကလေးရော လူကြီးပါ စိတ်ဝင်စားသည့် ပုံပြင်ဖြစ်သည်။ ဤပုံပြင်ကို ဆရာကြီး သခင်ဘသောင်းနှင့် ကျော်လှိုင်ဦး (မင်းကျော်)တို့ ဘာသာ ပြန်ခဲ့ကြဖူးပြီ။ ယခု ဆရာမောင်သိန်းလွင်က ယင်းပုံပြင် ကို အတိုချုံး၍ လူငယ်များအကြိုက် ဘာသာပြန်တင်ပြထား ခြင်း ဖြစ်သည်။

ဆရာကြီး သခင်ဘသောင်း၏ဟန်မှာ အတော်အတန် အသေးစိတ်ကျ၍ ရှည်လျားသည်။ လူကြီးကြိုက် ဖြစ်နိုင် သည်။ ကျော်လှိုင်ဦး၏ ဘာသာပြန်မှာမူ လူလတ်ပိုင်း ကြိုက်ဖြစ်နိုင်သည်။ ယခု မောင်သိန်းလွင်၏ ဘာသာ ပြန်မှာကား အချိန်လု၍ သွားလာလှုပ်ရှားနေကြရသော ခေတ်လူငယ်များအကြိုက် ဖြစ်နိုင်သည်။ ဥပမာ ထုတ်ပြရ သော် 'ငါ့အဖေဟာ ငါတို့အရပ်မှာဆိုလျှင် အသပြာပေါများ သည့် ကုန်သည်ကြီးတစ်ယောက်ပါ။ ငါ ငယ်ငယ်ကလေးမှာ ငါ့အဖေ သေသွားပါသည်။ သည်တော့ လယ်တွေယာတွေ ပစ္စည်းဥစ္စာတွေ အများကြီး ကျန်ရစ်ပါသည်။ ငါ ကြီးပြင်း

လာတော့ သည်ပစ္စည်းတွေကို ငါ အကုန်သိမ်းပိုက်ပြီး၊ ငါ ဟာ ကောင်းကောင်းစားသည်၊ ကောင်းကောင်းဝတ်သည်၊ ကောင်းကောင်းပျော်သည်။ ကောင်းကောင်းသုံးသည်၊ ကောင်းကောင်းဖြုန်းသည်။ ငါ့နှင့် သက်တူရွယ်တူ သူငယ်ချင်းအပေါင်းအဖော်များနှင့်လည်း ကောင်းကောင်း လည်သည်။ ငါ့တစ်သက်တွင် ဘယ်နည်းနှင့်မှ ငါဟာ ဆင်းရဲနိုင်လိမ့်မည်လို့ မထင်မိဘူး။ အဲသလိုနဲ့ပဲ ငါဟာ နှစ်ရှည်လများ ဖြုန်းသုံးပျော်ပါးနေခဲ့သည်။ နောက်ဆုံးကျလို့ ငါ သတိရသည့်အချိန်မှာ ငါ့မှာရှိသည့် ပစ္စည်းတွေဟာ ပြုတ်ပြုတ်ပြုန်းကုန်သဟာကို တွေ့ရသည်။ သဟာနှင့် ငါ လည်း ထိတ်လန့်သွားပြီး အရှင်သောလမုန် ပြောဖူးသည့် စကားပုံကို သွားသတိရသည်... အဲသဟာနှင့် ငါလည်း ပင်လယ်ခရီးထွက်ချင်ဇောနှင့် ကုန်တွေဝယ်ပြီး၊ အဲသည်ကုန် တွေကို သင်္ဘောပေါ်တင်ပြီး၊ ဗက်သောငူမြို့ကို တခြား ကုန်သည်တွေနှင့် ခရီးထွက်ခဲ့သည်။' ဟု ဆရာကြီး သခင်ဘသောင်းက စာကြောင်းရေ (၂၈)ဖြင့် ရေးခဲ့သည်ကို ဆရာ မောင်သိန်းလွင်က 'ကျွန်တော်ငယ်ငယ်ကတည်းက ကျွန်တော့်ဖခင် ကွယ်လွန်ခဲ့ပါတယ်။ ကျွန်တော့်အတွက် ဥစ္စာဓနတွေအများကြီး ချန်ထားခဲ့ပါတယ်။ ဖခင် ချန်ထား ခဲ့တဲ့ ဥစ္စာဓနအများစုကို ကျွန်တော်က မဆင်မခြင် သုံးဖြုန်းပစ်ခဲ့တယ်။ အဲဒီနောက် ကျွန်တော့်မှာ ရှိတာကလေး တွေ ဖြုန်းကာပြာကာကျပြီး၊ ဆင်းရဲပွဲတောတော့မယ့်ဆဲဆဲကျမှ သူငယ်ချင်းအချို့ရဲ့ အကြံဉာဏ်ကို လိုက်နာပြီး၊ ပင်လယ်

ပြင်ကို ထွက်ခဲ့တယ်။ ဆိပ်ကမ်းတစ်ခုခုကိုဆိုက်တဲ့အခါ ရောင်းရင် အမြတ်များများ ရနိုင်မယ့်ကုန်ပစ္စည်းအချို့ကို ယူခဲ့တယ်' ဟု စာကြောင်းရေ (၉)ကြောင်းမျှဖြင့် တင်ပြခဲ့ပါသည်။

ကျွန်တော်သည် မည်သူ၏ဘာသာပြန်က ကောင်းသည်ဟု အကဲဖြတ်အမှတ်ပေးနေခြင်း မဟုတ်ပါ။ ရှည်ခြင်းတိုခြင်းဟူသောပမာဏအကြောင်းကိုသာ ပြောပြနေခြင်းဖြစ်ပါသည်။ ယင်းကဲ့သို့ လိုရင်းကို အနှစ်ချုပ်၍ တိုတိုတုတ်တုတ် တင်ပြနိုင်မှုကြောင့် စားသုတ်သုတ် သွားသုတ်သုတ်ဖြစ်နေကြသည့် ခေတ်လူငယ်တို့အဖို့ ဆရာမောင်သိန်းလွင် ၏စာကို ပိုအကြိုက်တွေ့လိမ့်မည်ဟု ကျွန်တော်ထင်မိခြင်းဖြစ်ပါသည်။ ပူးတွဲပါ အင်္ဂလိပ်စာနှင့် ယှဉ်တွဲဖတ်ရှုခြင်းဖြင့်လည်း အင်္ဂလိပ်စာအသုံးအနှုန်းကြွယ်ဝစေရာအကြောင်း ကျွန်တော် မြင်မိပါသည်။ ထို့ကြောင့် စာရှုသူအား ဆရာမောင်သိန်းလွင် ၏ **သဗောသား ဆင်းဘတ်** နှင့်အတူ ပင်လယ်ခရီးထွက်ရသည့်အရသာကို ခံစားကြည့်ကြပါကုန်ဟုသာ အမှာစကားပါးလိုက်ပါသည်။

**ဒေါက်တာ ကျော်စိန်**

၅. ၇. ၂၀၀၂

မောင်သိန်းလွင် ၏

# သဘော်သားဆင်းဘတ်၏ စွန့်စားခန်းများ

**ကောင်းသန့်**

ငယ်ငယ်တုန်းက သဘော်သား ဆင်းဘတ်အကြောင်း ကြားဖူးသည်၊ ဖတ်ဖူးသည်။ နှစ်တွေကလည်း ကြာမြင့်လှပြီ ဆိုတော့ မေ့လျော့ကုန်ပြီ။ ဘာမျှမမှတ်မိတော့။ ယခု ဆရာ မောင်သိန်းလွင်က အမှာစာရေးပေးရန် စာမူပေးတော့မှ ပြန်ဖတ်ရသည်။ သဘော်သား ဆင်းဘတ်၏ သဲထိတ်ရင်ဖို စွန့်စားခန်းများကို ရင်တထိတ်ထိတ် ဖတ်ရသည်။

သဘော်ရွက်လွှင့်သွားရင်း လေပြင်းတိုက်ခတ်သဖြင့် သဘော်ပျက်သွားသည်။ ပျဉ်ချပ်ကြီးတစ်ချပ်ကို ဖက်တွယ်ရင်း ကျွန်းတစ်ကျွန်းကို ဆင်းဘတ် ရောက်သွားသည်။ လူသားစားလူရိုင်းတွေနှင့် တွေ့သည်။ လူရိုင်းတွေက သူတို့ကို အပင်အရွက်အချို့ကျွေးသည်။ ထိုအရွက်ကို စားမိသော ဆင်းဘတ်၏အဖော်တွေသည် အသိဉာဏ်နှင့် ဆင်ခြင်တုံတရားပျောက်သွားသည်။ ထိုအရွက်တွေပေးပြီး ကိုကိုးဆီနှင့် မြင်ဆင်ချက်ပြုတ်ထားသော ထမင်းတွေ အများကြီးယူလာပြီး ကျွေးသည်။ ထမင်းစားပြီး ဆူဖြိုးလာသောအခါ လူရိုင်းတွေက သူတို့ကို စားသည်။ ဆင်းဘတ်က အရွက်တွေ မစားသဖြင့် ပိန်သည်။ ပိန်သည်ထက် ပိုပိုပိန်လာသဖြင့် လူရိုင်း

တွေက သူ့ကို မစားချင်ကြ။ ထိုအခွင့်ကောင်းကိုယူပြီး ဆင်းဘတ် ထွက်ပြေးသည်။ ပင်လယ်ပြင်တစ်နေရာနားကို ရောက်တော့ ငရုတ်ကောင်းခူးနေကြသူများနှင့်တွေ့သည်။ သူတို့က သင်္ဘောနှင့်ဆင်းဘတ်ကို တင်ခေါ်သွားကြသည်။ ကျွန်းတစ်ကျွန်းကိုထပ်ပံရောက်သွားပြီး ဘုရင်ကြီးကက်ပါနှင့် တွေ့သည်။ သူက မြင်းတွေအတွက် ကုန်းနှီး၊ ဇက်ကြိုး၊ ခြေနင်းကွင်းတွေ လုပ်ပေးသဖြင့် ဘုရင်က သဘောကျပြီး မိန်းမ ပေးစားသည်။

ထိုတိုင်းပြည်တွင် ထုံးစံတစ်ခုရှိသည်။ မိမိဇနီးသေဆုံးလျှင် ယောက်ျားကို အရှင်လတ်လတ် မြေမြှုပ်သင်္ဂြိုဟ်သည်။ ဆင်းဘတ်ယူထားသော ဇနီးကဖျားနာပြီး သေဆုံးသွားသောအခါ တိုင်းပြည်၏ထုံးစံအတိုင်း ဆင်းဘတ်ကိုပါ မြှုပ်နှံသင်္ဂြိုဟ်ရန် ခေါ်သွားကြသည်။ ထိုအခါ ထိုကျွန်းမှ ဆင်းဘတ် ပြေးရပြန်သည်။

ဆင်းဘတ်၏စွန့်စားခန်းတွေကိုဖတ်ရင်း ကျွန်တော် မောလှသည်။ ဖတ်ပြီးတော့လည်း ရှေ့ဆက်ဘာဖြစ်ဦးမလဲ သိချင်နေပြန်၏။ ထို့ကြောင့် ရှေ့ဆက်ဖတ်ရပြန်သည်။ ကျွန်တော် ဖတ်ပြီးသမျှ ပြန်ပြောပြရလျှင် ဤစာအုပ်ဖတ်ရသူအတွက် အရသာပေါ့ပျက်ပျက် ဖြစ်သွားမှာစိုးသည်။ ထို့ကြောင့် ဆင်းဘတ်၏ဇာတ်ကြောင်းကို ပြန်ပြောင်း မပြောတော့ပါ။

ကိုယ့်ဘာသာကိုယ်ဖတ်ကြည့်ပြီး အရသာခံကြည့်စေချင်ပါသည်။

တစ်ခုတော့ မှာချင်သည်။ ဤစာအုပ် မဖတ်ခင် စားစရာရှိတာစား သောက်စရာရှိတာသောက်ထားပါဟုသာ ကြိုတင်မှာချင်ပါတော့၏။ အကြောင်းမူ ဤစာအုပ်ဖတ်လိုက်သည်နှင့် စာအုပ်ထဲနစ်မြုပ်ပြီး ဘာမျှ သတိရနိုင်တော့မည် မဟုတ်သောကြောင့်ဖြစ်ပါ၏။

ချစ်ခင်လျက်

**ကောင်းသန့်**

၁၉၊၆၊၀၂

# ဘာသာပြန်သူ ၏ အမှာ



• ဤစာအုပ် သင်္ဘောသားဆင်းဘတ်၏ စွန့်စားခန်းများ **Sindbad the Sailor** မှာ အာရပ်ဒေသ၏ ညများ **The Arabian Nights** ဟု ခေါ်သော အာရပ်ပုံပြင်များထဲမှ တစ်ခုဖြစ်သည်၊ ထိုပုံပြင်များကို (၁၀) ရာစုနှစ်အလွန်းက ပြုစုရေးသားခဲ့ကြသည်ဟု ဆိုပါသည်။ ထိုပုံပြင်များအနက် ပုံပြင် ၂၆၄ ခုမှာ ရှေးအာရပ်လူကြီးသူမတို့ တစ်ဆင့်စကား တစ်ဆင့်နားဖြင့် ပြောကြားခဲ့သော ပုံပြင်များဖြစ်ပြီး... နောင်လာနောက်သားတို့က အလားတူပုံပြင်များကို ဖြည့်စွက်ရေးသားသည်၊ ၁၄၅၀ ပြည့်နှစ်ရောက်မှ ယခု ကျွန်တော်တို့ ဖတ်ရှုနေသည့်ပုံပြင်များအဖြစ် ရောက်ရှိသည်ဟု ဆိုပါသည်။ ဤပုံပြင်များကို **ဆာရစ်ချတ် တာတန်**က အင်္ဂလိပ်ဘာသာပြန်ဆိုသည်။ အင်္ဂလိပ်ဘာသာမှ မြန်မာဘာသာသို့ (၂၀) ရာစုနှစ်ဦးပိုင်းလောက်တွင် ပြန်ဆိုကြသည်ဟု စာပေမှတ်တမ်းများက ဆိုသည်။ **ပသိပုံပြင်များ**အဖြစ် မြန်မာစာဖတ်ပရိသတ်က ကောင်းသိရှိ ဖတ်ရှုခဲ့ရသည်၊ နောက်ပိုင်းတွင် **သခင်ဘသောင်းက တစ်ထောင့်တစ်ညပုံပြင်များ** အမည်ဖြင့် မြန်မာဘာသာ ပြန်ဆိုသည်၊ စာဖတ်ပရိသတ်တို့ အသည်းစွဲအောင် နှစ်ခြိုက်ကြသည်။

ဤစာအုပ်မှာ **Enid Blyton** ၏ **Retold Series** မှ ဖြစ်သည်၊ အင်္ဂလိပ်စာကို ဝါသနာပါသူ

လေ့လာလိုက်စားသဲ လူငယ်များ အကျိုးအတွက် ဤစာအုပ်ကို ကျွန်တော် ရွေးချယ်ဘာသာပြန်ခြင်း ဖြစ်ပါသည်။

သူတို့ အင်္ဂလန်နိုင်ငံမှာပင်... အင်္ဂလိပ်ကလေးငယ်များ... စာများများ ဖတ်လာစေရန် အမျိုးမျိုးကြိုးစားကြသည်၊ စိတ်ဝင်စားဖွယ်ကောင်းသော စာအုပ်များကို Stage အဆင့်အမျိုးမျိုးခွဲ၍... အရွယ်မရွေးဖတ်နိုင်ရန် စီစဉ်ပေးသည်။ အဆင့် (၆)ဆင့်ခွဲပြီး လေ့ကျင့်ပေးသည်၊ ဖတ်စေသည်၊ လေ့ကားထစ်များသဖွယ် တစ်ဆင့်ပြီး တစ်ဆင့် စီစဉ်ပေးထားသည်။

သူတို့နိုင်ငံ သူတို့လူမျိုးအတွက် သူတို့စီစဉ်ပေးနိုင်လျှင်... ကျွန်တော်တို့နိုင်ငံ ကျွန်တော်တို့ လူမျိုးအတွက် စီစဉ်ပေးရမည်မှာ ကျွန်တော်တို့ တာဝန်ဖြစ်သည်။ ဤခံယူချက်ကြောင့် **Bilingual Translation** အင်္ဂလိပ်-မြန်မာနှစ်ဘာသာတွဲ စာအုပ်ကလေးများကို ကျွန်တော် ပြန်ဆိုနေခြင်း ဖြစ်ပါသည်။

ဤစာအုပ်ကို ဖတ်ရသည့်အတွက် အင်္ဂလိပ်စာကို လေ့လာသဲ လူငယ်များ အနည်းငယ်မျှ အကျိုးရှိသည်ဆိုလျှင်ပင်... ကျွန်တော် ဘာသာပြန်ရကျိုးနပ်ပြီဟု ဆိုရမည် ဖြစ်ပါသည်။

စေတနာအနန္တဖြင့်

**မောင်သိန်းလွင်**



# The Adventures of Sindbad the Sailor

## *The Strange Little Island*

Let me tell you my story. I am Sindbad, a sailor whose adventures will fill you with amazement, for each of the six voyages I have taken have been full of marvels of many kinds.



[illegible]

## ထူးဆန်းသော ကျွန်းကလေး

ကျွန်တော်ကြုံတွေ့ခဲ့ရတဲ့ အဖြစ်အပျက်... ကျွန်တော့် ဇာတ်လမ်းလေးနဲ့ပတ်သက်ပြီး... ခင်ဗျားတို့ကို ပြောပြပါရစေဗျာ။ ကျွန်တော်ကတော့ သင်္ဘောသား ဆင်ဘတ် ပါ။ ကျွန်တော့်ရဲ့ ထူးခြားဆန်းကြယ်ပြီး စိတ်လှုပ်ရှားဖွယ် အဖြစ်အပျက်တွေ... ကျွန်တော့်ရဲ့ ရဲဝံ့စွန့်စားဆောင်ရွက်ခဲ့တဲ့လုပ်ရပ်တွေက ခင်ဗျားအတွက် အံ့အားသင့်ဖွယ်တွေနဲ့ ပြည့်လျှမ်းနေပါလိမ့်မယ်။ ဘာကြောင့်လဲဆိုတော့... ကျွန်တော် သွားရောက်ခဲ့တဲ့ ရေကြောင်းခရီးခြောက်ခုအနက်... တစ်ခုစီ တစ်ခုစီဟာ... အံ့ဩဖွယ်ရာ... အံ့မခန်းဖြစ်စရာအမျိုးမျိုးနဲ့ ပြည့်လျှမ်းနေလို့ပါပဲ။



My father died when I was young, and left me much wealth. Most of this I spent foolishly. Then, when I was almost in poverty, I took the advice of some friends and went to sea. I took with me some goods which I hoped to sell at a profit when we touched at a port.

I embarked at Balsora, a port on the Persian Gulf. We set sail, and in due course arrived at several islands, where we sold or exchanged our goods. Then one day the wind dropped, and we lay becalmed near a little island which was almost level with the surface of the water.

ကျွန်တော်ငယ်ငယ်ကတည်းက ကျွန်တော့်ဖခင် ကွယ်လွန်ခဲ့ပါတယ်၊ ကျွန်တော့်အတွက် ဥစ္စာ၊ ငွေတွေအများကြီး ချန်ထားခဲ့ပါတယ်၊ ဖခင်ချန်ထားခဲ့တဲ့ ဥစ္စာငွေအများစုကို ကျွန်တော်က မဆင်မခြင်သုံးဖြုန်းပစ်ခဲ့တယ်။ အဲဒီနောက် ကျွန်တော့်မှာရှိတာလေးတွေ ဖြုကာပြာကာကျပြီး... ဆင်းရဲမွဲတေတော့မယ့်ဆဲဆဲကျတော့မှ... သူငယ်ချင်းအချို့ရဲ့ အကြံဉာဏ်ကို လိုက်နာပြီး... ပင်လယ်ပြင်ကို ထွက်ခဲ့တယ်။ ဆိပ်ကမ်းတစ်ခုခုကို ဆိုက်တဲ့အခါ... ရောင်းရင် အမြတ်များများရနိုင်မယ့် ကုန်ပစ္စည်းအချို့ကို ယူခဲ့တယ်။

ပါရှန်ပင်လယ်ကွေ့က ဆိပ်ကမ်းမြို့တစ်မြို့ဖြစ်တဲ့ ဘာလ်ဆိုရာ မှာ ကျွန်တော်... သင်္ဘောပေါ် တက်ခဲ့တယ်။ ကျွန်တော်တို့ ရွက်လွှင့်ထွက်ခွာခဲ့တယ်။ရောက်ချိန်တန်လာတော့လည်း... သူ့အစီအစဉ်အတိုင်း... ကျွန်းတွေ အံ့မြောက်အများကို ရောက်ခဲ့တာပေါ့၊ အဲဒီမှာ... ကျွန်တော်တို့ရဲ့ ကုန်ပစ္စည်းတွေကို ရောင်းကြချကြ... ပစ္စည်းချင်း ဖလှယ်ကြ... နဲ့လေ။ အဲဒီနောက်... တစ်နေ့ကျတော့ လေက ငြိမ်သွားတယ်။ (ရွက်လွှင့်လို့မရအောင် လေအရှိန်လျော့သွားတယ်။) ဒီတော့ ကျွန်တော်တို့လည်း... လေမလာလို့ ရွက်မတိုက်ဘဲ နေရတာပေါ့... ကျွန်းလေးတစ်ကျွန်းရဲ့ အနားမှာလေ... အဲဒီကျွန်းလေးက ရေမျက်နှာပြင်နဲ့ ညီတူနီးပါးရှိပြီး... ရေပေါ်မှာ ပေါ်တယ်ဆိုရုံလေးပါပဲ။



It looked like a smooth, green meadow, and some of us resolved to land upon it, and stretch our legs.

We had not been on the curious little island very long before it suddenly began to quake and tremble. Those on board the ship saw this, and shouted to us to beware—for we were on no island, but on the back of a huge whale!

Some jumped into the boat near by, and others swam to the ship. When the whale suddenly dived, I was the only person left on its back.

ညီညာပြန့်ပြူးပြီး စိမ်းလန်းစိုပြေနေတဲ့ မြက်ခင်းပြင်လေးတစ်ခုနဲ့ တူပါတယ်၊ ဒီတော့... ကျွန်တော်တို့အထဲမှ အချို့က အဲဒီကျွန်းလေးပေါ်တက်ပြီး ခြေဆန့်လက်ဆန့်လုပ်မယ်လို့ ကြံရွယ်ဆုံးဖြတ်ကြတယ်။

ကျွန်းပေါ်ကို ကျွန်တော်တို့ရောက်ပြီး သိပ်မကြာလိုက်ပါဘူး၊ အဲဒီကျွန်းက ရုတ်တရက်လှုပ်ပြီး တုန်ခါသွားပါတယ်၊ သင်္ဘောပေါ်မှာ ကျန်ခဲ့တဲ့ လူတွေကလည်း အဲဒီအဖြစ်အပျက်ကို မြင်တယ်၊ ဒီတော့... ကျွန်တော်တို့ကို သတိထားဖို့ သူတို့က အော်ပြီးပြောကြတယ်၊ ဘာကြောင့်ဆို... ကျွန်တော်တို့ ရောက်နေတာက ကျွန်းပေါ်မှာမှ မဟုတ်ဘဲကိုး... အင်မတန်ကြီးမားတဲ့ဝေလငါးကြီးရဲ့ ကျောကုန်းပေါ်ရောက်နေတာကိုး...!

အချို့လူတွေကတော့ အနီးမှာရှိတဲ့ လှေထဲကို ခုန်ချကြတယ်၊ အခြားလူတွေက သင်္ဘောဆီကို ရေကူးပြီး သွားကြတယ်၊ ဝေလငါးကြီးက ရုတ်တရက်ရေထဲကို ငုပ်လျှိုးသွားတဲ့အခါ... သူ့ရဲ့ကျောပြင်ပေါ်မှာ တစ်ဦးတည်း ကျန်ရစ်ခဲ့တဲ့လူကတော့ ကျွန်တော်ပေါ့... ။



I had time to catch hold of a piece of driftwood, and then had to struggle for my life. The captain took up those who were in the boat, and rescued those who were swimming, but did not see me. A favourable wind sprang up at that moment, and I saw, to my great horror, all the sails of my ship hoisted. Then the ship drove off before the wind, and I was left in the sea alone.



ကျွန်တော်က ရေထဲမျောလာတဲ့ သစ်တုံးတစ်တုံးကို လှမ်းဆွဲလိုက်ဖို့တော့ အချိန်ရလိုက်ပါသေးတယ်၊ အဲဒီနောက်... ကျွန်တော့်အသက်ရှင်ရေးအတွက် အပြင်းအထန်ကြိုးစားအားထုတ်ရပါတယ်၊ သင်္ဘောကက်ပတိန်က လှေထဲက လူတွေကို သင်္ဘောပေါ် ဆွဲတင်တယ်၊ ရေကူးနေတဲ့လူတွေကို ကယ်ဆယ်တယ်၊ ဒါပေမဲ့ ကျွန်တော့်ကိုတော့ မမြင်ဘူးဗျ။ အဲဒီအချိန်မှာ လေကြောင်းလေးက သင့်ပြီး အခွင့်သာလာတယ်၊ လေ...က ရုတ်တရက် ပြန်တိုက်နေတယ်၊ ကျွန်တော်... သင်္ဘောဆီ လှမ်းကြည့်လိုက်တယ်၊ ကျွန်တော့်အတွက် အရမ်းအထိတ်တလန့် ဖြစ်သွားစေတဲ့အချက်က... ကျွန်တော်စီးလာတဲ့သင်္ဘောဟာ ရွက်လွှင့်ဖို့အတွက် ရွက်တွေအားလုံး ဆွဲတင်လိုက်တာကို မြင်ရတာပါပဲ။ အဲဒီနောက်... သင်္ဘောဟာ လေကြောင်းရဲ့ ရှေ့ကနေပြီး မောင်းနှင်ထွက်ခွာသွားပါတယ်၊ ဒီတော့... ပင်လယ်ထဲမှာ တစ်ယောက်တည်း အထီးကျန်နေခဲ့သူကတော့ ကျွန်တော် ပေါ့။



I struggled in the water for a day and a night, and should certainly have been drowned if a big wave had not taken me and thrown me on an island. I lay on the shore half dead, and waited for the sun to rise and warm me.

When I had a little recovered, I went to seek food and water. I found some herbs to eat, and a spring of clear, cool water. Then, to my surprise, I came across a beautiful horse tied to a post.

It was a fine mare, and as I approached I was astonished to hear a voice calling me from under the ground.

ကျွန်တော်ဟာ ရေထဲမှာ တစ်နေ့နဲ့ တစ်ညလုံးလုံး (အသက်မသေအောင်) အပြင်းအထန်ကြိုးပမ်း အားထုတ်ခဲ့ရပါတယ်။ အလွန်ကြီးမားတဲ့ လှိုင်းလုံးကြီးတစ်ခုကသာ ကျွန်းလေးတစ်ကျွန်းပေါ် ရောက်အောင်... ကျွန်တော့်ကို သယ်ဆောင်မသွားဘူးဆိုရင်... ကျွန်တော် ကျိန်းသေရေနစ်သေပြီးလောက်ပါပြီ။ ကျွန်တော်ဟာ ပင်လယ်ကမ်းခြေမှာ သေလုမျောပါးဖြစ်ပြီး လဲကျနေပါတယ်၊ နေမင်းကြီးထွက်လာပြီး အနွေးဓာတ်ပေးမယ့် အချိန်ကိုပဲ... ကျွန်တော် စောင့်မျှော်ခဲ့ရပါတယ်။

ကျွန်တော်နည်းနည်းလေး... အားပြည့်ပြီး ထူထူထောင်ထောင်ဖြစ်လာတော့ အစားအသောက်နဲ့ ရေရဖို့သွားရှာတယ်။ စားလို့ရတဲ့... စားကောင်းတဲ့အပင်အချို့ကို တွေ့တယ်၊ စမ်းချောင်းလေးတစ်ခုကိုလည်း တွေ့တယ်။ စမ်းရေလေးတွေက ကြည်လင်အေးမြနေတယ်၊ ပြီးတော့ ကျွန်တော်အံ့ဩသွားတာက... တိုင်တစ်တိုင်မှာ လှပတဲ့မြင်းချောတစ်ကောင် ချည်ထားတာ မမျှော်လင့်ဘဲ တွေ့ရတာကိုပါပဲ။

တော်တော်ကို လှတဲ့မြင်းမတစ်ကောင် ဖြစ်ပါတယ်၊ ပြီးတော့ မြင်းမရဲ့အနားကို ကျွန်တော်ချဉ်းကပ်သွားတုန်းမှာ အလွန်အမင်း အံ့အားသင့်စရာ တစ်ခုကြုံရကယ်။ မြေအောက်ထဲကနေ ကျွန်တော့်ကို ခေါ်နေတဲ့ အသံတစ်သံကြားရလို့ပါပဲ။



I turned and saw a man coming from a cave. He asked who I was, and how I came there, and I told him of my adventure.

He took me into the cave, where I found more men. I asked them who they were, and they told me.

"We are the grooms of King Mihrage," they said. "Every year we bring his mares to this part of the island. Tomorrow we return, so if we had not found you today, you would surely have perished, for no one lives in this spot."

The next day they took me with them to the city where King Mihrage dwelt. They presented me to him, and he asked me all my story, which I told him truthfully.

ကျွန်တော်လှည့်ကြည့်လိုက်တော့… ဂူတစ်ခုထဲကနေ လူတစ်ယောက်လာနေတာကို တွေ့ရတယ်၊ သူက… ကျွန်တော်ဟာ ဘယ်သူလဲ… ဒီနေရာကို ဘယ်လိုရောက်လာသလဲလို့ မေးတယ်၊ ကျွန်တော်က… ကျွန်တော့်ရဲ့ ထူးခြားဆန်းကြယ်စွာ တွေ့ကြုံခဲ့ရတဲ့အဖြစ်အပျက်ကို ပြောပြလိုက်တယ်။

သူက ကျွန်တော့်ကို ဂူထဲခေါ်သွားတယ်၊ ဂူထဲရောက်သွားတော့ လူတွေအများကြီး ထပ်တွေ့တယ်။ သူတို့တွေက ဘယ်သူတွေလဲ… လို့ ကျွန်တော်ကမေးတော့… သူတို့က

"ကျုပ်တို့က မီဟာရာဂီ ဘုရင်ရဲ့ မြင်းထိန်းတွေပဲ…၊ နှစ်စဉ်နှစ်တိုင်း… ဘုရင့်မြင်းမတွေကို ကျွန်းရဲ့ ဒီအစိတ်အပိုင်းသို့ ခေါ်လာရတယ်၊ မနက်ဖြန်ဆိုရင် ကျုပ်တို့ပြန်တော့မယ်၊ ဒါကြောင့်… မင်းကို ဒီနေ့သာ ဒို့တွေမတွေ့ရင် မင်းတော့ ကျိန်းသေ… အတိဒုက္ခရောက်မှာပဲ။ ဘာကြောင့်ဆို.. ဒီနေရာမှာ ဘယ်လူမှ နေကြတာမဟုတ်ဘူး" လို့ ပြောပြတယ်။

နောက်တစ်နေ့ကျတော့… သူတို့က ကျွန်တော့်ကို သူတို့နဲ့အတူ မီဟာရာဂီ ဘုရင်နန်းစိုက်ရာ မြို့တော်ကို ခေါ်သွားတယ်၊ သူတို့က ကျွန်တော့်ကို ဘုရင်မင်းမြတ်ထံ အပ်နှင်းကြတယ်၊ ဘုရင်မင်းမြတ်က ကျွန်တော်ဖြစ်ပျက်ကြုံတွေ့ခဲ့ရတာတွေကို မေးတယ်။ ကျွန်တော်က မှန်မှန်ကန်ကန် ရိုးရိုးသားသား ပြန်လည်လျှောက်တင်တယ်။



"You shall stay here in safety," he said. "I will command that you want for nothing."

He was as good as his word. I was well looked after, and had everything I needed.

When merchants came to the town I went to talk with them, hoping to hear news of my own city of Bagdad, or to find some way of going back there; for the city of King Mihrage is on the sea, and has a fine port, to which come vessels from all parts of the world.



"မောင်မင်း… ဒီမှာ ဘေးကင်းလုံခြုံစွာနေထိုင်စေ…၊ မောင်မင်း ဘာမှလိုလေသေးမရှိရအောင်… ငါကိုယ်တော် မိန့်မှာထားမယ်…" လို့ ဘုရင်မင်းတရားက မိန့်မြွက်တော်မူတယ်။

ဘုရင်မင်းမြတ်က ကတိတည်တော်မူပါတယ်၊ သူပြောကြားတဲ့စကားအတိုင်း ဆောင်ရွက်ပေးတယ်၊ ကျွန်တော့်ကို ကောင်းကောင်းကြည့်ရှုစောင့်ရှောက်တယ်၊ ကျွန်တော်လိုအပ်သမျှ အရာရာကို ရရှိစေတယ်။ ဖြည့်ဆည်းပေးတယ်။

ကုန်သည်တွေ မြို့တော်ကို ရောက်လာတဲ့အခါ… ကျွန်တော်က သူတို့နဲ့ စကားစမြည်ပြောဖို့သွားတယ်။ ကျွန်တော်နေခဲ့တဲ့ မြို့တော် ဘဂ္ဂဒက် အကြောင်း သတင်းစကားလေး ကြားရမလား…၊ ဒါမှမဟုတ်… အဲဒီ မြို့တော်ကို ပြန်သွားနိုင်တဲ့ နည်းလမ်းတစ်ချို့တလေများ တွေ့နိုင်မလားဆိုတဲ့ မျှော်လင့်ချက်နဲ့ပေါ့၊ ဘာကြောင့်ဆို… ဘုရင် မိဟာရာဂီ ရဲ့ မြို့တော်ဟာ ပင်လယ်ခရီးသွားရာ လမ်းမှာရှိတယ်။ အင်မတန်ကောင်းမွန်တဲ့ သင်္ဘောဆိပ်တစ်ခုရှိတယ်၊ အဲဒီသင်္ဘောဆိပ်ကို ကမ္ဘာအရပ်ရပ်က သင်္ဘောတွေလာရောက်ဆိုက်ကပ်ကြတယ်။



One day, when I was at the port, a ship arrived. The merchants on board commanded that the bales of goods should be carried ashore. I watched them, and looked for the name on each. Judge of my astonishment when I saw my own name, Sindbad, on some of them, and knew them to be the very goods I had embarked at Balsora!

I looked at the captain, and knew him. But as I felt certain he thought I was drowned, I asked him whose bales these were.

"They belonged to a merchant called Sindbad, who was unhappily drowned," he replied. "I am now going to sell them, and give the money to his family."

တစ်နေ့… သင်္ဘောဆိပ်မှာ ကျွန်တော်ရှိနေတုန်း… သင်္ဘောတစ်စီး ရောက်လာတယ်၊ သင်္ဘောပေါ်က ကုန်ထုပ်တွေကို ကမ်းပေါ်ချဖို့ ကုန်သည်တွေက အမိန့်ပေးစေခိုင်းကြတယ်၊ ကျွန်တော်က အဲဒါတွေကို စောင့်ကြည့်နေတယ်၊ ကုန်စည်ထုပ် တစ်ထုပ်ချင်းပေါ်မှာ ရေးထားတဲ့နာမည်ကို ရှာဖွေကြည့်ရှုရတယ်…၊ ဘုရားရေ… အံ့သြစရာကောင်းလိုက်တာ…၊ အချို့ကုန်စည်ထုပ်တွေပေါ်မှာ ကျွန်တော့်နာမည် "ဆင်းဘတ်" ဆိုတာကို တွေ့ရတယ်၊ ဘာလ်ဆိုရာ ဆိပ်ကမ်းမြို့မှာ ကျွန်တော်သင်္ဘောတက်တုန်းက တင်ခဲ့တဲ့ ကုန်စည်ထုပ်တွေပဲဆိုတာ ကျွန်တော်သိလိုက်တယ်၊

ကျွန်တော်က သင်္ဘောကက်ပတိန်ကို ကြည့်လိုက်တော့… ကျွန်တော် သိတယ်၊ သူ့ကို ကျွန်တော်မှတ်မိတယ်၊ ဒါပေမဲ့ သူ့အနေနဲ့…က ကျွန်တော်ဟာ ရေနစ်သေသွားပြီလို့ ထင်နေမယ်ဆိုတာ ကျိန်းသေမုချ သိတယ်၊ ဒီတော့ ကျွန်တော်က သူ့ကို ဒီကုန်ထုပ်တွေဟာ ဘယ်သူ့ဟာတွေလဲ… လို့ မေးလိုက်တယ်။

"ဒါတွေကို ဆင်းဘတ် ဆိုတဲ့ ကုန်သည်တစ်ယောက် ပိုင်တာပေါ့ဗျာ…၊ သူက ကံမေပြီး ရေနစ်သေသွားခဲ့ရှာတယ်၊ အခု… ကျုပ်က ဒီပစ္စည်းတွေကို ရောင်းပြီးရတဲ့ငွေကို သူ့မိသားစုဆီပို့ပေးမလို့…" လို့ သူက ပြန်ပြောတယ်။



"Captain," said I, "those bales belong to me, for I am that Sindbad whom you thought to be drowned."

"What impudence is this!" cried the captain. "With my own eyes I saw Sindbad drawn under the waves."

"Patience, patience," I said. "Hear my tale, and then judge whether or no I am Sindbad."

Whereupon I told him all my adventures. He listened in amazement, and called some of the passengers of his ship. They knew me, and embraced me with joy and wonder.



"ကက်ပတိန်... ဒီကုန်စည်ထုပ်တွေကို ကျွန်တော်ပိုင်တယ်... ဗျ။ ဘာကြောင့်လဲဆိုတော့ ခင်ဗျား ရေနစ်သေသွားပြီလို့ထင်တဲ့ ဆင်းဘတ် ဟာ ကျွန်တော်ပါပဲ... " လို့ ကျွန်တော်က ပြောလိုက်တော့...

"အတင့်ရဲလှချေလားကွ...!" လို့ ကက်ပတိန်က အော်လိုက်တယ်၊ "လှိုင်းလုံးတွေကြားမှာ ဆင်းဘတ် ရေနစ်ပြီးသေသွားတာ... ငါ့မျက်စိနဲ့ ငါကိုယ်တိုင် မြင်ခဲ့တာကွ..."

"နေပါဦးဗျာ... စိတ်ရှည်ရှည်ထားစမ်းပါဦး... ကျွန်တော်ပြောတာလေးကို နားထောင်ပါဦး။ ပြီးတော့မှ ကျွန်တော်ဟာ ဆင်းဘတ် ဟုတ်မဟုတ်ကို ဆုံးဖြတ်ပါ" လို့ ကျွန်တော်က ပြောလိုက်တယ်။

အဲဒီနောက်မှာ... ကျွန်တော်က ကျွန်တော့်ရဲ့ ထူးခြားဆန်းကြယ်ပြီး အံ့ဩဖွယ်ကောင်းလှတဲ့ ဖြစ်ရပ်တွေကို ပြောပြတယ်၊ သူက တအံ့တဩနဲ့ နားထောင်တယ်၊ ပြီးတော့ သူ့သင်္ဘောပေါ်က ခရီးသည်အချို့ကို ခေါ်လိုက်တယ်။ သူတို့က ကျွန်တော့်ကို သိတယ်၊ သူတို့က အံ့ဩဝမ်းသာဖြစ်ပြီး... ပွေ့ဖက်နှုတ်ဆက်ကြတယ်။



Then the captain himself remembered me, and embraced me gladly.

"Heaven be praised for your lucky escape!" he said. "Here are all your goods. Take and do with them what you wish."

I went to King Mihrage, and told him of my good fortune. I gave him a valuable present from my goods, bade him farewell, and embarked once more on my ship. We set sail, and went off before the wind.



အဲဒီနောက်... ကက်ပတိန်ကိုယ်တိုင်က ကျွန်တော့်ကို မှတ်မိသွားပြီး... ကျွန်တော့်ကို ဝမ်းသာအယ်လဲ ပွေ့ဖက်နှုတ်ဆက်တယ်။

"မင်းရဲ့ ကံကောင်းထောက်မ လွတ်မြောက်လာမှုဟာ ဘုရားသခင်ရဲ့ ဂုဏ်ကျေးဇူးတော်ပေပဲ...!" လို့ သူက ပြောလိုက်တယ်၊ "ကဲ... ဒီမှာ မင်းရဲ့ကုန်ပစ္စည်းတွေ...၊ အဲဒါတွေယူပြီး မင်းရဲ့စိတ်တိုင်းကျသာ ဆောင်ရွက်ပေတော့..."

ကျွန်တော်က မိဟာရာဂျ ဘုရင်မင်းတရားထံ သွားပြီး... ကျွန်တော့်ရဲ့ ကံကောင်းထောက်မမှုအကြောင်းကို လျှောက်ထားတယ်၊ ကျွန်တော့်ရဲ့ ကုန်ပစ္စည်းတွေထဲက တန်ဖိုးရှိတဲ့အရာတွေကို လက်ဆောင်ပဏ္ဏာအဖြစ် ဆက်သတယ်၊ ဘုရင်မင်းတရားကို နှုတ်ခွန်းဆက်သပြီး... ကျွန်တော့်ရဲ့သင်္ဘောပေါ် သို့ တစ်ခါထပ်ပြီး တက်ခဲ့ပြန်ပါတယ်။ ကျွန်တော်တို့တွေဟာ လေတင်ကနေပြီး ရွက်လွှင့်ထွက်ခွာခဲ့ပါတယ်။

By the time I once more reached the port of Balsora, I had sold my goods to such profit that I had a hundred thousand sequins to my name. My family were overjoyed to see me, and embraced me tenderly.

Then I bought many slaves, and built myself a great house. Here I settled down, eager to enjoy the pleasures of life, and to forget what I had suffered.





ဘာလ်ဆိုရာ ဆိပ်ကမ်းကို ကျွန်တော်တစ်ခါထပ်ပြီး ရောက်တဲ့အခါမှာတော့... ကျွန်တော်ယူသွားခဲ့တဲ့ ကုန်ပစ္စည်းတွေကို ရောင်းချလို့ပြီးခဲ့ပါပြီ။ အမြတ်အစွန်းက များပြားတဲ့အတွက် ကျွန်တော်ပိုင် ကျွန်တော့်နာမည်နဲ့ ရွှေဒင်္ဂါးတစ်သိန်း ပိုင်ဆိုင်ရရှိခဲ့ပါတယ်။ ကျွန်တော့်မိသားစုတွေက ကျွန်တော့်ကိုတွေ့တဲ့အခါ အလွန်အမင်း ဝမ်းမြောက်ပျော်ရွှင်သွားကြတယ်၊ ကျွန်တော့်ကို ချစ်ခင်ယုယ မြတ်နိုးစွာနဲ့ ပွဲ့ဖက်နှုတ်ဆက်ကြတယ်။

အဲဒီနောက်... ကျွန်တော်က ကျေးကျွန်တွေ အများကြီးဝယ်ယူတယ်၊ ကျွန်တော်ကိုယ်တိုင်ကြီးကြပ်ပြီး အိမ်ကြီးတစ်ဆောင်ကို ဆောက်လုပ်တယ်။ အဲဒီမှာ ကျွန်တော်အခြေချ နေထိုင်ပါတယ်၊ အတိတ်က ခံစားခဲ့ရတဲ့ ဒုက္ခဝေဒနာတွေကို မေ့ပျောက်ပစ်ဖို့ရယ်... ဘဝရဲ့ သာယာမှုအပေါင်းကို နှစ်သက်ခံစားဖို့ရယ်... ဆိုတဲ့ ပြင်းပြတဲ့ စိတ်အားထက်သန်မှုနဲ့လေ...။



# *The Giant Roc and the Valley of Diamonds*

For some time I had a quiet and peaceful life. But soon I tired of this, and longed to go to sea again. I bought some goods, embarked on another ship, and began my second voyage.

We touched island after island, and sold our goods to great profit. Then one day we came to an isle where grew many fine fruit trees, but as far as we could see, there were no people there at all.

## ရောမ ဂဠုန်ငှက်ကြီး နှင့် စိန်တောင်ကြား

အချိန်တော်တော်ကြာအောင် အေးအေး ဆေးဆေး ငြိမ်းငြိမ်းချမ်းချမ်း... နေထိုင်ခဲ့ပါတယ်၊ ဒါပေမဲ့ မကြာခင်မှာ အဲဒီလိုနေနေရတာကို ငြီးငွေ့လာပြီး... ပင်လယ်ပြင်ကို နောက်တစ်ခါထပ်သွားချင်တဲ့ ဆန္ဒတွေပေါ်လာတယ်။ ကုန်ပစ္စည်းအချို့ကိုဝယ်... အခြားသင်္ဘောတစ်စီးပေါ်တက်ပြီး ပင်လယ်ရေကြောင်း ဒုတိယခရီးစဉ်ကို ကျွန်တော်ထွက်ခွာလာခဲ့ပါတယ်။

ကျွန်တော်တို့သင်္ဘောက ကျွန်းတစ်ကျွန်းပြီး တစ်ကျွန်းမှာ ဆိုက်ကပ်ခဲ့ပါတယ်၊ ကျွန်တော်တို့ရဲ့ ကုန်ပစ္စည်းတွေကို ရောင်းချပြီး အမြတ်လည်း တော်တော်ရရှိပါတယ်။ အဲဒီနောက်ပိုင်း... တစ်နေ့မှာ ကျွန်တော်တို့ ကျွန်းလေးတစ်ကျွန်းကို ရောက်ခဲ့တယ်၊ အဲဒီကျွန်းပေါ်မှာ အလွန်ကောင်းတဲ့ သီးပင်တွေ အများကြီး ပေါက်ရောက်နေကြတယ်၊ ဒါပေမဲ့ ကျွန်တော်တို့ ကြည့်လို့ရသမျှအတိုင်းအတာ တစ်မျှော်တစ်ခေါ် အတွင်းမှာတော့... လူသူအရိပ်အရောင်ဆိုလို့ လုံးဝကို မတွေ့ရပါဘူး။



We landed, and began to roam about. I sat down by a stream, and soon fell fast asleep.

When I awoke, the ship was gone! I got up and looked about for the men who had been with me on the island, but could see them nowhere. Then, far on the skyline, I saw the ship, and soon she had disappeared altogether.

I thought I should die of dismay and sorrow. I beat my head and breast, and cried out in despair. Then I bethought myself to climb a tree, and see from there if I was near any town.

ကျွန်းပေါ်ကို ကျွန်တော်တို့တက်ပြီး... ဟိုဟိုဒီဒီ လှည့်လည်ကြည့်ရှုကြတယ်၊ ကျွန်တော်က စမ်းချောင်းလေး တစ်ခုအနားမှာ ထိုင်လိုက်တယ်၊ မကြာခင်မှာ နှစ်နှစ်ခြိုက်ခြိုက် အိပ်ပျော်သွားတယ်။

ကျွန်တော်အိပ်ရာနိုးတော့ သင်္ဘောကထွက်သွားပြီ! အိပ်ရာကနေ ကျွန်တော်ထလိုက်ပြီး ကျွန်းပေါ်မှာ ကျွန်တော်နဲ့အတူ ရှိနေခဲ့တဲ့လူတွေကို လှည့်လည်ရှာဖွေကြည့် တယ်၊ ဒါပေမဲ့ သူတို့ကို ဘယ်နေရာမှာမှ မတွေ့ရဘူး။ အဲဒီ နောက်....ဟို... ဝေးကွာလှတဲ့ မိုးကုပ်စက်ဝိုင်းတစ်နေရာမှာ သင်္ဘောကို တွေ့ရတယ်၊ ပြီးတော့ မကြာခင်မှာပဲ... သင်္ဘော က လုံးဝပျောက်ကွယ်သွားပါတယ်။

လာမည့်ဘေးတွေးပြီး ကြောက်လန့်တာရယ်... ဝမ်းနည်းသောကဖြစ်ရတာတွေရယ်ကြောင့်... သေတောင် သေမယ်လို့ ကျွန်တော်ထင်မိတယ်၊ ခေါင်းကို ထုလိုက်... ရင်ဘတ်ကို ထုလိုက်နဲ့... ကျွန်တော်ဟာ စိတ်ပျက်လက်ပျက် အော်ဟစ်ငိုကြွေးမိတယ်။ အဲဒီနောက်... ဘာလုပ်ရင် ကောင်းမလဲလို့... အကောင်းဆုံးကို စဉ်းစားဆင်ခြင်တယ်၊ သစ်ပင်တစ်ပင်ပေါ်တက်ပြီး... သစ်ပင်ပေါ်ကနေ အနီး အနားမှာ လူနေထိုင်ရာမြို့တွေ ရှိသလား ကြည့်ရင် ကောင်းမယ်လို့ တွေးမိပြီး သစ်ပင်ပေါ်တက်ကြည့်တယ်။



On the sea side was nothing but sea and sky, but on the land side I saw something white, though I could not tell what it was. I climbed down, and made my way towards this.

When I came near I thought it must be a great bowl of some sort, very high and very big. I touched it, and found it smooth. I walked round it, but there was no opening anywhere. It was at least fifty paces round. I could not think what it might be.

Then suddenly the sky seemed to grow dark. I looked up and saw a monstrous bird flying towards me. It flew down to the ground, and sat upon the great white thing–which I at once knew to be its egg!

ပင်လယ်ဘက် အပိုင်းမှာတော့ ပင်လယ်နဲ့ ကောင်းကင် ကလွဲလို့ ဘာမှမရှိပါဘူး၊ ဒါပေမယ့် ကုန်းမြေဘက်အပိုင်း မှာတော့ (ဘာလဲလို့ မပြောနိုင်ပေမယ့်...) ဖြူဖြူကြီးတစ်ခုကို တွေ့ရတယ်။ သစ်ပင်ပေါ်က ဆင်းပြီး၊ အဲဒီဖြူဖြူကြီးရှိတဲ့ ဆီကို သွားတယ်။

အဲဒီဖြူဖြူကြီးရဲ့အနားကို ရောက်သွားတဲ့အခါ... သိပ် မြင့်ပြီး... သိပ်ကြီးတဲ့ ပန်းကန်လုံးလိုဟာမျိုး တစ်မျိုးမျိုး ဖြစ်ရမယ်လို့ ကျွန်တော်ထင်မိတယ်။ အဲဒါကြီးကို ကျွန်တော် သွားကိုင်ကြည့်တော့... ချောမွတ်ညီညာနေတာကို တွေ့ရ တယ်။ အဲဒါကြီးကို လှည့်ပတ်ပြီး ကျွန်တော်ကြည့်တယ်၊ ဒါပေမဲ့ ဘယ်နေရာမှာမှ အပေါက်အဟ... ပပ်ကြားအက် ကလေးတောင် မတွေ့ရပါဘူး၊ အဲဒါကြီးက အနည်းဆုံး ခြေလှမ်းငါးဆယ်စာလောက် အဝန်းရှိတယ်။ အဲဒါဘာဖြစ် နိုင်တယ်ဆိုတာ ကျွန်တော်လည်း မတွေးတတ်တော့ပါဘူး။

အဲဒီအချိန်မှာ... ကောင်းကင်ကြီးက ရုတ်တရက် အုံ့မှိုင်းလာတယ်၊ နေရောင်ပျောက်ပြီး မိုးအုံ့လာတယ်။ ကောင်းကင်ကို ကျွန်တော်မော့ကြည့်လိုက်တော့ ရောမ ငှက်ကြီးတစ်ကောင် ကျွန်တော့်ဆီပျံသန်းလာတာကို တွေ့ရ တယ်၊ အဲဒီငှက်ကြီးက မြေပြင်ပေါ် ဆင်းသက်လာပြီး ဖြူဖြူ (အလုံး)ကြီးပေါ်မှာ ဝပ်လိုက်တယ်။ အဲဒီတော့မှ ချက်ချင်းပဲ ကျွန်တော်သိလိုက်ရပါတယ်... ဒီဖြူဖြူ(အလုံး)ကြီးဟာ... ဒီငှက်ကြီးရဲ့ ဥ... ကိုး။



I knew then that the bird must be a gigantic roc, of which I had heard mariners tell many tales. A plan came to me, and I swiftly unwrapped the folds of my turban. With it I tied myself tightly to the great bird's legs, which seemed to me like the trunks of trees, and waited for it to fly away. I thought that then I should be taken from this barren place.



အဲဒီတော့မှ... ဒီငှက်ကြီးဟာ အလွန်ကြီးမားတဲ့ဂဠုန်ငှက်ကြီးတစ်ကောင် ဖြစ်ရမယ်လို့ ကျွန်တော်ရိပ်မိသိရှိလာတယ်။ ဒီငှက်နဲ့ပတ်သက်ပြီး သင်္ဘောသားတွေပြောတဲ့ အဖြစ်အပျက်ဇာတ်လမ်း အပြောက်အမြားကို ကျွန်တော် ကြားဖူးထားတယ်လေ။ (ငှက်ကြီးကိုကြည့်ရင်း) ကျွန်တော် အကြံတစ်ခုရတယ်။ ကျွန်တော့်ခေါင်းမှာ ရစ်ပတ်ပြီး ဆောင်းထားတဲ့ခေါင်းပေါင်းကို အလျှင်အမြန်ဖြေလိုက်တယ်။ အဲဒီခေါင်းပေါင်းစတစ်ဖက်ကို ငှက်ကြီးရဲ့ ခြေထောက်တွေမှာ ကျွန်တော့်ကိုယ်ကို... ကျွန်တော်တင်းတင်းကျပ်ကျပ် သွားချည်လိုက်တယ်။ အဲဒီခြေထောက်တွေဟာ သစ်ပင်ပင်စည်တွေလို့တောင် ထင်ရတယ်။ အဲဒီလိုချည်ပြီးတဲ့နောက်... ငှက်ကြီး ပျံသန်းထွက်ခွာသွားမယ့်အချိန်ကို စောင့်ဆိုင်းနေလိုက်တယ်၊ ငှက်ကြီးပျံသန်းသွားမယ်ဆိုရင် ဘာမှမရှိတဲ့... ဒီနေရာကနေ ကျွန်တော့်ကိုလည်း သယ်ဆောင်သွားနိုင်မယ်လို့ ကျွန်တော်ထင်မိတယ်။



Next morning the bird flew off, taking me with her. She flew very high, and I could not see the earth. Then she began to fly downwards at such a terrible pace that I fainted. When I opened my eyes again, I found myself on the ground with the great roc. I at once untied myself, and no sooner had I done so than the bird rose into the air again, having in her beak an enormous serpent.



နောက်နေ့မနက်မှာ... ကျွန်တော့်ကိုပါ သယ်ဆောင်ရင်း... ငှက်ကြီးပျံသန်းထွက်ခွာသွားပါတယ်။ ဟိုး... အမြင့်ကြီးကနေ ပျံသန်းတဲ့အတွက်... မြေပြင်ကိုတောင် ကျွန်တော် မတွေ့ရပါဘူး။ အဲဒီအချိန်မှာ... ငှက်ကြီးက မြေပြင်ပေါ်ကို ထိုးစိုက်ပြီး ဆင်းတယ်၊ ထိုးဆင်းတဲ့အရှိန်က အရမ်းကို ပြင်းပြီး ကြောက်စရာကောင်းလွန်းတာကြောင့် ကျွန်တော်မူးမေ့သွားတယ်။ ကျွန်တော့်မျက်လုံးတွေကို ပြန်ပြီး ကျွန်တော် ဖွင့်ကြည့်လိုက်တဲ့အခါ... ကျွန်တော်ဟာ ဂဠုန်ငှက်ကြီးနဲ့အတူ မြေပြင်ပေါ်ရောက်နေတာ တွေ့ရတယ်။ ချက်ချင်းပဲ... ငှက်ကြီးနဲ့တွဲပြီး ချည်ထားတဲ့ခေါင်းပေါင်းစကို ဖြေလိုက်တယ်။ အဲဒီလို ဖြေပြီးလို့ မကြာခင်မှာ ငှက်ကြီးက ကောင်းကင်ကို တစ်ခါထပ်ပြီး ပျံတက်သွားတယ်၊ သူ့နှုတ်သီးထဲမှာတော့ အလွန်ကြီးမားတဲ့ မြွေကြီးတစ်ကောင်နဲ့လေ...။



I looked round and saw that I was in a deep valley. It was surrounded by such high, steep mountains that I saw at once I could not climb them. How then was I to get out? I seemed to be even worse off than when I was on the desert island.

As I walked about I saw that diamonds were strewn over the ground. Some of these were so enormous that I looked on them with delight. But I soon saw something that took all my pleasure away–for in the distance were serpents, huger than any I had ever seen or heard of. Even the smallest of them could have swallowed an elephant!

ပတ်ဝန်းကျင်ကို လှည့်ပတ်ပြီး ကျွန်တော်ကြည့်လိုက်တော့... ကျွန်တော်ဟာ အလွန်နက်ရှိုင်းတဲ့တောင်ကြားကြီးတစ်ခုထဲ ရောက်နေတာကို တွေ့ရတယ်။ အရပ်းကို မြင့်မားမတ်စောက်တဲ့တောင်ကြီးတွေ ဝန်းရံထားတဲ့အတွက်... တောင်ပေါ်ကို ဘယ်လိုမှ တက်နိုင်မှာမဟုတ်ဘူးဆိုတာ... ကျွန်တော်ချက်ချင်းပဲ သိလိုက်ပါတယ်။ ဒီလိုဆိုရင်... တောင်ကြားထဲကနေ အပြင်ရောက်အောင်... ငါ ဘယ်လိုထွက်ရပ့်ါမလဲ...? လူသူကင်းမဲ့တဲ့... ကျွန်းကလေးပေါ်မှာနေခဲ့ရတာထက်တောင် ပိုပြီးဆိုးဝါးတဲ့အနေအထားပဲလို့ထင်ရပါတယ်။

အဲဒီလိုနဲ့... ဟိုဟိုဒီဒီလျှောက်ကြည့်တဲ့အခါ... မြေပြင်ပေါ်မှာ စိန်တုံးတွေ ပြန့်ကျဲတည်ရှိနေတာကို တွေ့ရတယ်။ အချို့ စိန်တုံးကြီးတွေဟာ အလွန်ကြီးမားတဲ့အတွက် ဝမ်းမြောက်ဝမ်းသာနဲ့ ကျွန်တော်ကြည့်မိတယ်၊ ဒါပေမဲ့... မကြာခင်မှာပဲ... ကျွန်တော်တွေ့လိုက်ရတဲ့ မြင်ကွင်းကြောင့် ကျွန်တော့်ရဲ့(စိန်တုံးတွေ တွေ့ရမှုကြောင့်) သာယာပျော်ရွှင်နေတဲ့စိတ်တွေ ပျောက်လွင့်ကုန်ပါတယ်။ ဘာကြောင့်ဆို... ခပ်လှမ်းလှမ်းမှာ... မြွေတွေကို ကျွန်တော် တွေ့ရလို့ပါပဲ။ ကျွန်တော် မြင်ဖူးကြားဖူးတာထက် ပိုမိုကြီးမားတဲ့မြွေတွေလေ...။ သူတို့အထဲက အသေးဆုံးဆိုတဲ့မြွေတောင်မှ ဆင်တစ်ကောင်ကို မြိုနိုင်လောက်အောင် ကြီးပါတယ်!



I walked about all day, and when night drew near I found a small cave where I thought I should be safe from the snakes. I went inside, and shut up the mouth of it with a large stone. It did not quite close the cave, but allowed a little daylight to enter. When it was quite dark I lay down to sleep.

But the serpents came all round my cave, and I could hear them hissing in a fearful manner. I was so afraid that I could not even close my eyes. I was glad when daylight entered the cave, and the snakes glided away. They feared the giant rocs, and went to hide themselves.

တစ်နေ့ကုန်အောင်... ဟိုဟိုဒီဒီ လျှောက်သွားပြီး ကျွန်တော်ကြည့်တယ်။ ညနေပိုင်းရောက်လုလု အချိန်မှာတော့ ဂူလေးတစ်ခုကို ကျွန်တော်တွေ့တယ်၊ အဲဒီဂူထဲဝင်နေမယ်ဆိုရင်တော့... မြွေတွေရဲ့ဘေးကနေ လွတ်လောက်ရဲ့... လို့ ကျွန်တော်တွေးမိတယ်၊ ဂူထဲကို ကျွန်တော်ဝင်လိုက်တယ်၊ ဂူဝကို ကျောက်တုံးကြီးတစ်ခုနဲ့ ပိတ်လိုက်တယ်၊ ကျောက်တုံးက ဂူဝကို အံဝင်ခွင်ကျပိတ်သွားတာတော့ မဟုတ်ပါဘူး၊ လွတ်နေတဲ့နေရာလေးတွေ ရှိတယ်၊ အဲဒီလွတ်နေတဲ့နေရာလေးတွေကနေ... နေရောင်(အလင်းရောင်) နည်းနည်းဝင်ပါတယ်၊ လုံးဝမှောင်သွားတဲ့အခါ အိပ်စက်ဖို့အတွက် ကျွန်တော် လဲလျောင်းပါတယ်။

ဒါပေမဲ့... ကျွန်တော် ဝင်ခိုနေတဲ့ ဂူလေးဝန်းကျင်ပတ်ပတ်လည်ကို မြွေတွေလာကြတယ်၊ သူတို့ရဲ့ ကြောက်စရာကောင်းတဲ့ မြွေတွန်သံတွေကို ကျွန်တော် ကြားရတယ်၊ အရမ်းကိုကြောက်တဲ့အတွက် ကျွန်တော့်မျက်လုံးတွေကို မှိတ်တောင် မမှိတ်ရဲပါဘူး။ ဂူထဲကို နေရောင်လေးဝင်လာတော့ ဝမ်းသာလိုက်တာဗျာ...၊ မြွေတွေလည်း အခြားကို ထွက်ခွာသွားကြတယ်။ သူတို့က ဂဠုန်ငှက်ကြီးတွေကိုကြောက်တော့... သူတို့ဟာသူတို့ လွတ်ရာကျွတ်ရာကို သွားပုန်းကြတာလေ။



Trembling, I pushed the stone away, and went out into the valley once more. I had passed such a terrible night that I walked on the diamonds without giving them a thought. Then, as I was very tired and sleepy, I sat down, and thought I would sleep for a while.

I had no sooner shut my eyes than I was awakened by something rolling by me with a great noise. I jumped to my feet, and saw to my surprise that a large piece of fresh meat had rolled by me. As I looked at it in amazement, I saw several other pieces coming down from the rocks in the mountains.

တုန်တုန်ယင်ယင်နဲ့ပဲ... ကျွန်တော့်က ကျောက်တုံးကြီးကို တွန်းပစ်လိုက်ပြီး တောင်ကြားထဲကို တစ်ခါထပ်ထွက်ခဲ့တယ်၊ ပြီးခဲ့တဲ့ညကလို သည်းထိတ်ရင်ဖို ကြောက်စရာကောင်းလွန်းတဲ့ ညမျိုးကို ကျော်ဖြတ်ခဲ့ရတဲ့အတွက်... စိန်တုံးတွေပေါ် နင်းပြီး လမ်းလျှောက်နေရတာတောင်... ဒါစိန်တွေပါလား ဆိုတဲ့အတွေး မဝင်မိပါဘူး။ အဲဒီအချိန်မှာ ကျွန်တော်ဟာ သိပ်မောပြီး သိပ်အိပ်ချင်နေတဲ့အတွက် ခဏလောက်တော့ မှေးလိုက်ဦးမှလို့ ကျွန်တော်တွေးပြီး ထိုင်ချလိုက်တယ်။

ကျွန်တော့်မျက်လုံးတွေကို မှိတ်လိုက်ပြီးလို့ မကြာခင်မှာပဲ... ကျွန်တော့်အနားကနေ တစ်ခုခု ကပ်လိမ့်ဆင်းသွားတဲ့ အသံကြီးတစ်သံကြောင့်... ကျွန်တော်နိုးလာတယ်၊ ကျွန်တော် ထခုန်လိုက်တယ်၊ လတ်လတ်ဆတ်ဆတ် အသားတုံးကြီးတစ်ခု... ကျွန်တော့်အနားကနေ လိမ့်သွားတာကို တအံ့တဩမြင်ရတယ်။ အဲဒီအသားတုံးကြီးကို တအံ့တဩကြည့်နေတုန်း တောင်ပေါ် ကျောက်ဆောင်တွေကြားကနေ အခြားအသားတုံးတွေအများကြီး လိမ့်ဆင်းကျလာကြတာကို တွေ့ရတယ်။



Then I knew that I was in the famous Valley of Diamonds which had never been trodden by the foot of man, owing to the steep mountains that protect it. I knew also the meaning of the pieces of meat, for I had many times heard of the trick that merchants used in order to get diamonds from this valley.

There are many eagles in this country, and in the season when they nest and have young ones, the merchants throw large joints of meat into the valley of Diamonds. These roll over many precious stones, which stick to them. The eagles pounce on the meat and carry it away in their claws to their nests. The merchants run to the nests, frighten away the eagles, and then take the diamonds out of the meat. Thus do they enrich themselves.

အဲဒီတော့မှ... ကျွန်တော်ဟာ... မြင့်မားတဲ့တောင်ကြီးတွေက ကာကွယ်ထားတဲ့အတွက်... ဘယ်လူသားမှ ခြေမချဖူးတဲ့ နာမည်ကျော်စိန်တောင်ကြားကို ရောက်နေပါလားလို့ သိလိုက်ရတယ်။ အသားတုံးကြီးတွေကို ဘာကြောင့်ပစ်ချတယ်ဆိုတဲ့ အဓိပ္ပါယ်ကိုလည်း သဘောပေါက်မိတယ်၊ ဘာကြောင့်ဆို... ဒီတောင်ကြားက စိန်တွေကို ရဖို့အတွက်... ကုန်သည်တွေသုံးတဲ့ နည်းပရိယာယ်တွေအကြောင်း ကျွန်တော် အကြိမ်များစွာ ကြားဖူးထားလို့ပါပဲ။

ဒီဒေသမှာ လင်းယုန်တွေ အများကြီးရှိတယ်။ သူတို့တွေ အသိုက်ဆောက်တဲ့ သားပေါက်တဲ့... ရာသီဆိုရင်... ကုန်သည်တွေက အသားတုံး အသားတစ်တွေကို စိန်တောင်ကြားထဲ... ပစ်ချကြတယ်။ အဲဒီအသားတုံးတွေက စိန်တွေပေါ်မှာ လိမ့်ဆင်းသွားပြီး စိန်တွေက အသားတုံးမှာသွားကပ်ကြတယ်။ အသားတုံးတွေကို လင်းယုန်တွေက ခြေသည်းနဲ့ ကုတ်ပြီး... သူတို့အသိုက်တွေဆီသို့ သယ်ဆောင်ကြတယ်၊ ကုန်သည်တွေက ငှက်သိုက်တွေဆီ ပြေးတယ်၊ လင်းယုန်တွေကို ခြောက်လှန့်ပြီးလွှတ်တယ်၊ ပြီးမှ အသားတုံးမှာ ကပ်နေတဲ့ စိန်တွေကို ခွာယူတယ်၊ အဲဒီလိုနည်းနဲ့... သူတို့တွေ ကုံလုံကြွယ်ဝပြီး သူဌေးတွေဖြစ်ကုန်ကြတာပေါ့။



Up till that moment I had thought that never should I be able to get out of the valley; but when I saw the meat rolling by me, an idea came into my mind, and I rejoiced. I swiftly gathered up the biggest diamonds I could see, and filled my wallet with them. Then I went to the largest piece of meat in the valley, and tied myself to it with the long rolls of my turban.

I lay face downwards, waiting for the coming of the eagles. Soon I felt one pick me up in its strong claw, and bear me away to the mountain-top. As soon as it had placed me in its nest, the merchants began shouting to frighten it away. Then they ran to see if there were any diamonds in the meat.

အဲဒီအချိန်မတိုင်မီထိ... တောင်ကြားထဲကနေ ထွက်နိုင်မယ့်နည်းလမ်းကို ကျွန်တော်မတွေးမိခဲ့ပါဘူး၊ ဒါပေမဲ့ ကျွန်တော့်ဘေးကနေ အသားတုံးလိမ့်သွားတာကို မြင်လိုက်တဲ့အခါမှာတော့... ကျွန်တော့်စိတ်ထဲမှာ အကြံတစ်ခုရလာတယ်၊ ကျွန်တော် ဝမ်းမြောက်ဝမ်းသာ ဖြစ်သွားတယ်၊ ကျွန်တော်တွေ့တဲ့ အကြီးဆုံးစိန်တုံးတွေကို ခပ်မြန်မြန်ကောက်ယူလိုက်တယ်၊ ပြီးတော့ ကျွန်တော့်ရဲ့ ခေါက်ပိုက်ဆံအိတ်ထဲကို အပြည့်ထည့်ထားလိုက်တယ်။ အဲဒီနောက်တောင်ကြားထဲမှာရှိတဲ့ အကြီးဆုံးအသားတုံးကြီးဆီ သွားတယ်၊ အသားတုံးကြီးကို ကျွန်တော့်ကိုယ်နဲ့တွဲပြီး ချည်လိုက်တယ်၊ ကျွန်တော့်ရဲ့ ရှည်လျားတဲ့ခေါင်းပေါင်းစ အလိပ်ကြီးကို အသုံးပြုပြီးတော့ပေါ့...။

လင်းယုန်ငှက်တွေအလာကို စောင့်မျှော်ရင်းနဲ့... ကျွန်တော်က (ကျောကုန်းပေါ်မှာ အသားတုံးကိုတင်ပြီး) မြေပြင်ပေါ်မှာ မှောက်နေလိုက်တယ်။ မကြာခင်မှာ... ငှက်တစ်ကောင်က သူ့ရဲ့သန်မာတဲ့ ခြေသည်းတွေအသုံးပြုပြီး ကျွန်တော့်ကို မ... ချီလိုက်တာ... သိလိုက်ရတယ်၊ ပြီးတော့ ကျွန်တော့်ကို တောင်ထိပ်ဆီသို့ ချီယူသယ်ဆောင်သွားပါတယ်။ ကျွန်တော့်ကို သူ့အသိုက်ထဲမှာ... ချထားပြီး... ပြီးချင်း၊ ကုန်သည်တွေ ရောက်လာကြတယ်၊ ငှက်ကို အော်ဟစ်ခြောက်လှန့်ပြီး မောင်းထုတ်ကြတယ်။ ပြီးတော့... အသားတုံးထဲမှာ စိန်တွေရှိမရှိ ကြည့်ရအောင်... ပြေးလာကြတယ်။



When they saw me, they were very much alarmed, but soon they began abusing me, saying that I had stolen their diamonds.

"Speak civilly to me," I bade them. "I have here far more diamonds than any of you. *You* have to take what the eagles bring you – but I have chosen my diamonds myself, from the bottom of the valley."



ကျွန်တော့်ကိုတွေ့တော့ သူတို့တွေ အရမ်းကို ထိတ်လန့်တုန်လှုပ်သွားကြတယ်၊ ဒါပေမဲ့... မကြာခင်မှာ သူတို့တွေက ကျွန်တော့်ကို ကြမ်းကြမ်းတမ်းတမ်း ဆဲရေးပြောဆိုကြတယ်၊ သူတို့ရဲ့စိန်တွေကို ကျွန်တော်က ခိုးပါတယ်... လို့ စွပ်စွဲပြောဆိုရင်းနဲ့လေ။

"ကျုပ်ကို ယဉ်ယဉ်ကျေးကျေး ပြောကြစမ်းပါဗျာ" လို့ ကျွန်တော်က သူတို့ကို ပြောလိုက်တယ်၊ "ကျုပ်မှာရှိတဲ့ စိန်တွေက ခင်ဗျားတို့ ဘယ်သူမဆိုမှာရှိတဲ့ စိန်တွေထက် ပိုပြီးများပါတယ်ဗျ၊ ခင်ဗျားတို့က လင်းယုန်ငှက်တွေ ချီလာသမျှကိုသာ ရကြတာပါ၊ ဒါပေမဲ့... ကျုပ်က ကျုပ်ရဲ့စိန်တွေကို တောင်ကြားအောက်ခြေကနေ ကျုပ်ကိုယ်တိုင် ရွေးယူလာခဲ့တာဗျ..."



I showed them my wallet, and told them how I had escaped from the valley, whereat they all marvelled. They took me to the place where they were staying together, and there I begged the merchant in whose nest I had been found (for each merchant had his own) to take as many of my big diamonds as he pleased. But he would take only one, and that the smallest of all.

"For," he said, "this one alone will make me rich enough to settle down in peace and happiness for the rest of my days."

ကျွန်တော့် ခေါက်ပိုက်ဆံအိတ်ကို ကျွန်တော်က ပြလိုက်တယ်၊ ပြီးတော့ တောင်ကြားထဲကနေ ကျွန်တော် ဘယ်လို လွတ်မြောက်လာခဲ့တယ်ဆိုတဲ့အကြောင်း သူတို့ကို ပြောပြတယ်၊ အဲဒီတော့မှ သူတို့လည်း တအံ့တသြဖြစ်ကုန်ကြတယ်။ ပြီးတော့... သူတို့တွေ အတူစုပေါင်းတည်းခိုနေထိုင်ကြတဲ့နေရာသို့ ကျွန်တော့်ကို ခေါ်သွားကြတယ်၊ အဲဒီရောက်တော့ ကျွန်တော်သိတာက ကုန်သည်တစ်ယောက်စီမှာ... သတ်မှတ်ထားတဲ့ ကိုယ်ပိုင်ငှက်သိုက်တစ်ခုစီ ရှိတယ်၊ ကိုယ့်ငှက်သိုက် ကရတဲ့စိန်ကို ကိုယ်ယူကြတယ်။ ကျွန်တော်က ကျွန်တော့်ကို ငှက်ကချီပြီး ချထားခဲ့တဲ့ငှက်သိုက်ပိုင်ရှင်ကို တောင်းပန်တယ်၊ ကျွန်တော်သယ်လာတဲ့ စိန်တုံးကြီးတွေထဲက... သူ့စိတ်ကြိုက် ကြိုက်သလောက်ယူပါ... လို့ ပေးအပ်တယ်။ ဒါပေမဲ့... သူက တစ်ခုပဲယူတယ်... စိန်တွေထဲက အသေးဆုံး စိန်တုံးလေးတစ်တုံးကိုပဲ ယူပါတယ်။ သူက ပြောတယ်...

"ဘာကြောင့်လဲဆိုတော့ ဒီစိန်တုံးလေးတစ်ခုတည်းနဲ့တင် ကျုပ်လုံလောက်သွားပြီ၊ ကျုပ် သူဌေးဖြစ်ပြီဗျ။ ကျုပ်ဘဝရဲ့ ကျန်တဲ့နေ့ရက်တွေမှာ ကျုပ်မသေခင်အထိ ငြိမ်းငြိမ်းချမ်းချမ်း ပျော်ပျော်ရွှင်ရွှင်နဲ့ အခြေချနေထိုင်လို့ရပြီ..."

After a while we all started off to return to our own land. We had many adventures on the way, but arrived at last at Balsora, from where I went to Bagdad. From my great wealth I gave much money to the poor, and then once again settled down to enjoy peace and comfort after my strange adventures.





အချိန်အတော်ကြာတော့... ကျွန်တော်တို့ တိုင်းပြည်ကို ကျွန်တော်တို့ပြန်ဖို့ ခရီးစတင်ထွက်ခွာခဲ့ကြတယ်။ လမ်းခုလတ်မှာ စွန့်စားဆောင်ရွက်ခဲ့ရတာတွေ... ထူးခြားဆန်းကြယ်တဲ့အဖြစ်အပျက် အပြောက်အမြားတွေနဲ့ ကြုံဆုံခဲ့ရပါသေးတယ်၊ ဒါပေမဲ့... နောက်ဆုံးမှာ ဘာလ်ဆိုရာ ဆိပ်ကမ်းမြို့ကို ရောက်ခဲ့ကြတယ်၊ အဲဒီကနေပြီးတော့မှ ဘဂ္ဂဒက်မြို့တော်ကြီးကို ကျွန်တော်သွားတယ်၊ ကျွန်တော့်ရဲ့ ပေါကြွယ်လှတဲ့ စနစည်းစိမ်တွေထဲကနေပြီး... မရှိဆင်းရဲသားတွေကို ပိုက်ဆံတွေ အများကြီး ပေးလှူတယ်၊ ထူးခြားဆန်းကြယ်တဲ့အဖြစ်အပျက်တွေ... စွန့်စားမှုတွေ ကြုံတွေ့ရပြီးတဲ့... အဲဒီနောက်မှာတော့... ကိုယ်စိတ်နှစ်ဖြာ ချမ်းသာပြီး... ဘဝရဲ့သာယာပျော်ရွှင်မှုတွေကိုခံစားဖို့ အေးအေးဆေးဆေးပဲ အခြေချနေထိုင်လိုက်ပါတော့တယ်။



## *The Black Giant and the Great Serpent*

I soon grew tired of my peaceful life, and longed to go voyaging again. So one day I bought some choice goods, and embarked for the third time at Balsora. When our journey was about half over, we ran into a fearful tempest which went on for several days, and drove us off course.

We came to an island, which the captain seemed very loath to approach, but there was no help for it. We entered the port, cast anchor, and furled our sails.

## ဘိလူးမည်းကြီး နှင့် မြွေနဂါးကြီး

မကြာမီမှာ… ကျွန်တော့်ရဲ့ ငြိမ်းငြိမ်းချမ်းချမ်းနေရတဲ့ ဘဝကို ငြီးငွေ့လာပြီး… ပင်လယ်ထဲကို ခရီးပြန်ထွက်ဖို့ ပြင်းပြတဲ့ဆန္ဒတွေ ပေါ်လာပြန်တယ်။ ဒါကြောင့်… တစ်နေ့မှာ ကုန်ပစ္စည်းတွေကို စိတ်ကြိုက်ရွေးချယ်ဝယ်ယူတယ်။ ပင်လယ်ပြင်ကို တတိယအကြိမ် ခရီးထွက်ဖို့ ဘာလ်ဆိုရာ ဆိပ်ကမ်းကနေ သင်္ဘောပေါ် တက်ခဲ့ပြန်ပါတယ်။ ကျွန်တော်တို့ရဲ့ ခရီးစဉ်တစ်ဝက်ကျော်ကျော်လောက်ရောက်တဲ့အခါ… ကြောက်စရာကောင်းတဲ့ မုန်တိုင်းကြီးတစ်ခုနဲ့ ကြုံရတယ်၊ အဲဒီမုန်တိုင်းက ရက်ပေါင်းများစွာ ဆက်လက်တိုက်ခတ်တယ်၊ ကျွန်တော်တို့သွားနေတဲ့ လမ်းကြောင်းကနေ အခြားကို ရောက်သွားအောင် တိုက်ခတ်တာ ဖြစ်ပါတယ်။

ကျွန်းလေးတစ်ကျွန်းကို ကျွန်တော်တို့ ရောက်သွားတယ်၊ သင်္ဘောကပ်ပတိန်က အဲဒီကျွန်းနားကိုကပ်ဖို့ အရမ်းကို မလိုလား… မနှစ်သက်တဲ့ပုံပေါ် တယ်။ ဒါပေမဲ့… မကပ်ဘဲ နေလို့လည်း မရတဲ့ မတတ်သာတဲ့အခြေအနေဆိုတော့ ကပ်လိုက်ရတယ်။ ဆိပ်ကမ်းကိုဝင်… ကျောက်ချပြီး ရွက်တွေကို လိပ်လိုက်တယ်။



"This island and those round about are infested by a fearful multitude of men," said the captain. "They will attack us, and we must be careful not to defend ourselves nor to kill any of them, or they will swarm over us and destroy us all."

No sooner had he spoken than we saw the men swimming towards us. They were tiny savages, about two feet high, very ugly, and covered with thick red hair. There were so many of them that none of us could count them. They climbed up our ship, took down the sails, and cut away the anchor.

"ဒီကျွန်းနဲ့ အနီးအနားဝန်းကျင်မှာရှိတဲ့ ကျွန်းတွေကို လာရောက်ပြီး သောင်းကျန်းနှောင့်ယှက်တဲ့ လူတွေ အမြောက်အမြားရှိတယ်၊ သူတို့က ကျွန်တော်တို့ကို တိုက်ခိုက် လိမ့်မယ်၊ ကျွန်တော်တို့က သူတို့ကို ပြန်လည်မခုခံပိဖို့၊ သူတို့ အထဲက တစ်ယောက်ယောက်ကို မသတ်မိဖို့ သတိပြုရ မယ်။ မဟုတ်လို့ကတော့... သူတို့တွေအားလုံး စုပြုရောက်ရှိ လာကြပြီး ကျွန်တော်တို့အားလုံးကို သတ်ဖြတ်ဖျက်ဆီးပစ် လိုက်ကြမှာပဲ..." လို့ ကက်ပတိန်က ပြောပြတယ်။

သူစကားပြောပြီးလို့မှ မကြာသေးဘူး... ကျွန်တော်တို့ ဆီကို ရေကူးပြီးလာနေတဲ့ လူတွေကို တွေ့ရတယ်။ သူတို့ တွေက အရပ်နှစ်ပေလောက်ပဲရှိပြီး ကြမ်းတမ်းရက်စက်တဲ့ လူရိုင်းမျိုးတွေ...၊ ရုပ်တွေကလည်း အလွန်ဆိုးပြီး... ထူထပ် နီရဲတဲ့ အမွေးအမှင်တွေ ဖုံးလွှမ်းနေတယ်၊ သူတို့လာတာများ လွန်းလို့.. ဘယ်နှစ်ယောက်လောက် ရှိတယ်ဆိုတာ... ဘယ်သူ မှ မရေတွက်နိုင်ပါဘူး။ သူတို့တွေက သင်္ဘောပေါ်တက် တယ်၊ ရွက်တွေကို ဆွဲချတယ်၊ ကျောက်ဆူးကြိုးကို ဖြတ်ပစ် တယ်။



We watched them, and trembled, for we did not dare to defend ourselves. They hauled our ship to shore, and after making us get out, they took it away.

We made our way into the island, and found some herbs and fruit. Then, away in the distance we saw a great palace, with a double gate of ebony. We went through this, and found ourselves in a courtyard. On one side was a heap of human bones, and on the other a great number of roasting-spits.

We were struck with horror at this sight, and fell flat to the ground, unable to move for fear..

ကျွန်တော်တို့တွေဟာ တုန်တုန်ယင်ယင်နဲ့ပဲ စောင့်ကြည့်နေရတယ်... ဘာကြောင့်ဆို... ကျွန်တော်တို့ မခုခံမကာကွယ်ရဲဘူးလေ။ သူတို့က ကျွန်တော်တို့သင်္ဘောကို ကမ်းခြေသို့ ဆွဲသွားတယ်၊ ပြီးတော့... ကျွန်တော်တို့ကို သင်္ဘောပေါ်ကနေ ဆင်းခိုင်းပြီး... သင်္ဘောကို သူတို့ ယူသွားကြပါတယ်။

ကျွန်တော်တို့လည်း ကျွန်းရဲ့ အတွင်းပိုင်းကို လမ်းရှာပြီး ဝင်ရောက်သွားကြတယ်၊ စားလို့ရတဲ့ အပင်အချို့နဲ့ သစ်သီးတွေ တွေ့တယ်၊ ဟိုး... ခပ်လှမ်းလှမ်းတစ်နေရာမှာ အမည်းရောင် ရင်းတိုက်သား နှစ်ထပ်တံခါးဝင်ပေါက်နဲ့ နန်းတော်ကြီးတစ်ခုကိုလည်း တွေ့တယ်၊ အဲဒါကိုဖြတ်ပြီး ဝင်သွားတော့... ခြံဝင်းကြီးတစ်ခုထဲကို ကျွန်တော်တို့ ရောက်နေတာ တွေ့ရတယ်၊ ခြံဝင်းရဲ့တစ်ဖက်မှာ လူ့အရိုးတွေ ပုံနေတယ်၊ အခြားတစ်ဖက်မှာတော့ မီးကင်တဲ့နေရာမှာသုံးတဲ့ တံစို့တွေ အများကြီးကို တွေ့ရတယ်။

အဲဒီမြင်ကွင်းကိုလည်းတွေ့ရော... ကျွန်တော်တို့ဟာ ထိတ်လန့်ကြောက်ရွံ့လွန်းလို့ မြေပြင်ပေါ်ကို လဲကျကုန်ကြပါတယ်၊ ပြီးတော့ ကြောက်ရွံ့ပူပန်မှုကြောင့် လှုပ်တောင်မလှုပ်နိုင်ကြတော့ပါဘူး။



Then, just as we were in this plight, the gate opened, and in came a great black giant, as high as a palm tree. He had one burning red eye in the middle of his forehead, and his fore-teeth stuck right out of his mouth. His under-lip hung down on his chest, and his great ears flapped over his shoulders.

We were so frightened at the sight of this monster that we lay as if we were dead.

When we came to ourselves, we saw the giant sitting nearby, watching us. Then he suddenly caught me up in his hand, and turned me round and round. But as I was very lean, he put me down again. He looked at all the others, and seeing that the captain was the fattest, he ate him for his supper.

အဲဒီလိုဆိုးဝါးတဲ့ အခြေအနေနဲ့ ဒုက္ခရောက်နေတုန်း... တံခါးကြီးပွင့်သွားပြီး ဘီလူးမည်းကြီးတစ်ကောင် ဝင်လာပါ လေရော...။ အရပ်အမောင်းက ထန်းပင်လောက်ရှိတယ်၊ သူ့ နဖူးရဲ့ အလယ်တည့်တည့်မှာ ရဲရဲနီနေပြီး အရောင်တောက် နေတဲ့ မျက်လုံးကြီးတစ်လုံးရှိတယ်၊ သူ့ရဲ့ ရှေ့သွားတွေက သူ့ပါးစပ်ထဲကနေ ငေါ်ပြီးထွက်နေတယ်၊ သူ့ရဲ့ အောက် နှုတ်ခမ်းက ရင်ဘတ်ပေါ်ထိ တွဲကျနေတယ်၊ သူ့နားရွက်ကြီး တွေက ပခုံးတွေပေါ်မှာ တဖျပ်ဖျပ်နဲ့ ရိုက်ခတ်နေတယ်၊

ကြောက်စရာကောင်းတဲ့ ရောမဘီလူးကြီးကို တွေ့ရတဲ့ မြင်ကွင်းကြောင့်... ကျွန်တော်တို့တွေဟာ အသေကောင်တွေ လိုပဲ... လဲကျနေကြပါတယ်။

ကျွန်တော်တို့ သတိပြန်လည်လာတဲ့အခါမှာတော့... ဘီလူးကြီးဟာ ကျွန်တော်တို့အနားမှာ ထိုင်ပြီး ကျွန်တော် တို့ကို စောင့်ကြည့်နေတာတွေ့ရတယ်၊ အဲဒီနောက် သူက ကျွန်တော့်ကို သူ့လက်နဲ့ ရုတ်တရက်ကောက်ယူလိုက်တယ်၊ သူ့လက်ထဲမှာ ကျွန်တော့်ကို ဘယ်ပြန်ညာပြန်လှည့်လှည့်ပြီး ကြည့်တယ်။ ဒါပေမဲ့... ကျွန်တော်က သိပ်ပိန်နေတော့... ကျွန်တော့်ကို မြေပြင်ပေါ် ပြန်ချထားလိုက်တယ်။ ကျန်တဲ့ လူအားလုံးကိုလည်း သူကြည့်လိုက်တယ်။ အားလုံးထဲမှာ ကက်ပတိန်က အဝဆုံးဆိုတော့... ဘီလူးကြီးက သူ့ကို ညစာ အဖြစ် စားပစ်လိုက်ပါတယ်။



This terrified us exceedingly. We heard the monster snoring all night long, but when morning came, he arose and departed. We were so frightened that we could think of no way to save ourselves. We ran about the island, taking herbs and fruit where we found them, but at night we returned to the palace, for there was no place to lie in but that.

The giant came in again, and ate another of our companions. We could do nothing but lament bitterly. The next day we determined to think of a plan of escape. I had noticed much driftwood about, and this gave me an idea.

အဲဒီဖြစ်ရပ်က ကျွန်တော်တို့တွေကို အလွန်အမင်း ထိတ်လန့်ကြောက်ရွံ့သွားစေတယ်။ တစ်ညလုံး... ဘီလူးကြီး ဟောက်နေသံကို ကျွန်တော်တို့ကြားကြရတယ်။ ဒါပေမဲ့ မနက်လည်းလင်းရော... ထပြီးတော့ ထွက်ခွာသွားပါတယ်။ ကျွန်တော်တို့ဟာ သိပ်ကို ထိတ်လန့်ကြောက်ရွံ့နေတဲ့ အတွက်... ကျွန်တော်တို့ကိုယ် ကျွန်တော်တို့ ကယ်ဆယ်ဖို့ နည်းလမ်းကို မစဉ်းစားမိကြပါဘူး။ ကျွန်းပေါ်မှာ ပြေးလွှား ရင်း စားကောင်းတဲ့... အပင်တွေ အသီးတွေကို တွေ့တဲ့ နေရာမှာ စားသောက်ကြပါတယ်။ ဒါပေမဲ့ ညကျတော့ နန်းတော်ကြီးထဲ ကျွန်တော်တို့ ပြန်သွားကြတယ်... ဘာကြောင့်ဆို ကျွန်းပေါ်မှာ... အဲဒီနေရာကလွဲရင် လှဲလို့ ပြုလို့ရတဲ့နေရာ ဘယ်မှာမှ မရှိလို့ပါပဲ။

ဘီလူးကြီး ပြန်ဝင်လာတယ်... ကျွန်တော်တို့ အပေါင်း အသင်းတွေထဲက အခြားတစ်ယောက်ကို စားတယ်၊ ကျွန်တော် တို့လည်း ယူကျုံးမရလောက်အောင် ကြေကွဲဝမ်းနည်းမိတာ က လွဲလို့ ဘာမှမလုပ်နိုင်ပါဘူး၊ နောက်တစ်နေ့ကျတော့... လွတ်မြောက်ဖို့အစီအစဉ်တစ်ခုကို တွေးတောစဉ်းစားဖို့ ဆုံးဖြတ်ကြတယ်။ ရေမျောကမ်းတင်သစ်တွေ အများကြီး ရှိတာကို ကျွန်တော် သတိထားမိတယ်၊ အဲဒီမှာ ကျွန်တော် အကြံတစ်ခုရတယ်။



"Let us make ourselves small rafts," I said. "Then we can perhaps throw ourselves on the mercy of the sea if no ship comes by to rescue us."

The others thought this a good idea, and we spent the day in making rafts, each big enough to take three people. At night we returned to the palace, where once more the giant ate yet another of our company.

This enraged us so much that we determined to be revenged upon the monster. So when he was asleep we heated the ends of nine roasting-spits in the fire till they were red-hot. Then we thrust them into the giant's eye and blinded him.

အဲဒီဖြစ်ရပ်က ကျွန်တော်တို့တွေကို အလွန်အမင်း ထိတ်လန့်ကြောက်ရွံ့သွားစေတယ်။ တစ်ညလုံး… ဘီလူးကြီး ဟောက်နေသံကို ကျွန်တော်တို့ကြားကြရတယ်။ ဒါပေမဲ့ မနက်လည်းလင်းရော… ထပြီးတော့ ထွက်ခွာသွားပါတယ်။ ကျွန်တော်တို့ဟာ သိပ်ကို ထိတ်လန့်ကြောက်ရွံ့နေတဲ့ အတွက်… ကျွန်တော်တို့ကိုယ် ကျွန်တော်တို့ ကယ်ဆယ်ဖို့ နည်းလမ်းကို မစဉ်းစားမိကြပါဘူး။ ကျွန်းပေါ်မှာ ပြေးလွှား ရင်း စားကောင်းတဲ့… အပင်တွေ အသီးတွေကို တွေ့တဲ့ နေရာမှာ စားသောက်ကြပါတယ်။ ဒါပေမဲ့ ညကျတော့ နန်းတော်ကြီးထဲ ကျွန်တော်တို့ ပြန်သွားကြတယ်… ဘာကြောင့်ဆို ကျွန်းပေါ်မှာ… အဲဒီနေရာကလွဲရင် လုံလုံ ခြုံခြုံ ရှိလို့ရတဲ့နေရာ ဘယ်မှာမှ မရှိလို့ပါပဲ။

ဘီလူးကြီး ပြန်ဝင်လာတယ်… ကျွန်တော်တို့ အပေါင်း အသင်းတွေထဲက အခြားတစ်ယောက်ကို စားတယ်၊ ကျွန်တော် တို့လည်း ယူကျုံးမရလောက်အောင် ကြေကွဲဝမ်းနည်းမိတာ က လွဲလို့ ဘာမှမလုပ်နိုင်ပါဘူး၊ နောက်တစ်နေ့ကျတော့… လွတ်မြောက်ဖို့အစီအစဉ်တစ်ခုကို တွေးတောစဉ်းစားဖို့ ဆုံးဖြတ်ကြတယ်။ ရေမျောကမ်းတင်သစ်တွေ အများကြီး ရှိတာကို ကျွန်တော် သတိထားမိတယ်၊ အဲဒီမှာ ကျွန်တော် အကြံတစ်ခုရတယ်။



He awoke in great pain, and began to cry out, and to grope round for us, but we hid ourselves well, and he could not find us. At last he flung open the ebony gate and ran out howling. We followed, and made our way to the shore, resolving to wait until day, and then put out to sea on our little rafts.

Just as day dawned we saw the blind giant appear, with two others leading him. Behind came a great number of other monsters. As soon as we saw them we jumped on our rafts, and pushed off from shore. The giants saw us, and picked up great stones. These they threw at us, and their aim was so good that they sank all the rafts except the one upon which I and my two companions were.

အရပ်းကို နာနာကျဲ့ကျင်ကျင်နဲ့ သူ နိုးလာတယ်၊ သူက ကျယ်ကျယ်လောင်လောင် အော်ပြီး... ကျွန်တော်တို့ကို လှည့်ပတ်ပြီး လက်နဲ့လိုက်စမ်းတယ်၊ ဒါပေမဲ့ ကျွန်တော်တို့က ကောင်းကောင်းပုန်းနေကြတယ်၊ ဒီတော့ သူက ကျွန်တော်တို့ကို မတွေ့နိုင်ပါဘူး။ နောက်ဆုံးကျတော့... သူက မဟူရာ တံခါးကို တစ်ဟုန်ထိုး ပြေးဖွင့်တယ်၊ ပါးစပ်ကလည်း ကျယ်ကျယ်လောင်လောင် အော်ဟစ်ပြီး အပြင်ဘက်ကို ထွက်ပြေးသွားတယ်။ ကျွန်တော်တို့ သူ့နောက်က လိုက်သွားပြီး... ကမ်းခြေဘက်ကို လမ်းရှာပြီးသွားတယ်။ နေထွက်တဲ့ အထိ စောင့်မယ်...၊ နေထွက်ရင် ဖောင်လေးတွေ စီးပြီး ပင်လယ်ပြင်ကို ထွက်မယ်လို့ ဆုံးဖြတ်ကြတယ်။

နေအရုဏ်တက်ခါစပဲ ရှိသေးတယ်... မျက်ကန်းဘီလူးကြီး ပေါ်ပေါက်လာတာကို ကျွန်တော်တို့ တွေ့ရတယ်။ အခြားဘီလူးနှစ်ကောင်က သူ့ကို လမ်းပြဆွဲခေါ်လာကြတယ်။ သူတို့နောက်မှာတော့ ဘီလူးတွေ အများကြီးပဲ။ သူတို့ကို မြင်... မြင်ချင်း ဖောင်တွေပေါ်ကို ကျွန်တော်တို့ ခုန်တက်ကြတယ်။ ပြီးတော့ ကမ်းကနေ ဖောင်တွေကို ရေထဲတွန်းချပြီး ထွက်ခွာခဲ့တယ်။ ဘီလူးတွေက ကျွန်တော်တို့ကို မြင်သွားပြီး ကျောက်တုံးကြီးတွေကို ကောက်ယူလိုက်ကြတယ်၊ အဲဒီကျောက်တုံးကြီးတွေနဲ့... ကျွန်တော်တို့ကို ပစ်ပေါက်ကြတယ်။ သူတို့ချိန်တာ သိပ်တော်တယ်၊ ကျွန်တော်နဲ့ကျွန်တော့်အဖော်နှစ်ယောက်ပါတဲ့ဖောင်ကလွဲရင် ဖောင်တွေအားလုံး နစ်မြုပ်ကုန်တယ်။



We rowed as fast as we could, and at last we were out of reach of the giants. But then, alas! we were at the mercy of the wind and waves. We were tossed about for two days and nights, and then saw to our joy that we were being driven upon an island.

We landed in safety, and found some fruit to eat, and water to drink. Then we went to sleep on the sea-shore. We were awakened by a rustling noise, and to our horror saw an immense serpent. It swallowed up one of my companions, and in the greatest terror we fled away.



ကျွန်တော်တို့လည်း တတ်နိုင်သမျှ အစွမ်းကုန် လျှော်ခတ်ကြတယ်၊ နောက်ဆုံးမှာ ဘီလူးတွေ လက်လှမ်းမမီတဲ့နေရာကို ကျွန်တော်တို့ ရောက်သွားကြတယ်။ ဒါပေမဲ့ ကျွန်တော်တို့ဟာ လေနဲ့လှိုင်းတွေ ပြုသမျှနုရမယ့် အနေအထားပါပဲ။ နှစ်နေ့နဲ့ နှစ်ညတိတိ လှိုင်းလုံးတွေပေါ်မှာ လူးလိမ့်ပါလာခဲ့တယ်၊ အဲဒီနောက်ပိုင်း... ကျွန်တော်တို့ ဝမ်းသာသွားတာက ကျွန်တော်တို့ဟာ ကျွန်းတစ်ကျွန်းပေါ်မှာ သွားတင်လို့ပါပဲ။

ကျွန်းပေါ်ကို ကျွန်တော်တို့ ဘေးမသီရန်မခ ဆင်းခဲ့ကြတယ်၊ စားစရာ သစ်သီးအချို့နဲ့ သောက်စရာ ရေတွေ တွေ့တယ်၊ အဲဒီနောက်... ကမ်းခြေမှာပဲ ကျွန်တော်တို့ အိပ်လိုက်ကြတယ်... တချွတ်ချွတ် တရှဲရှဲမြည်နေတဲ့အသံကြီးတစ်သံကြောင့် ကျွန်တော်တို့ လန့်နိုးကြတယ်၊ ကျွန်တော်တို့ ထိတ်လန့်တုန်လှုပ်သွားတာက... အရမ်းကို ကြီးမားတဲ့ မြွေကြီးတစ်ကောင်ကို တွေ့လိုက်ရလို့ပါပဲ။ အဲဒီမြွေကြီးက ကျွန်တော့် အပေါင်းအသင်းတွေထဲက တစ်ယောက်ကို မျိုနေတယ်၊ အရမ်းအရမ်းကို ကြောက်လန့်တုန်လှုပ်တဲ့စိတ်နဲ့ ကျွန်တော် တို့ ကွက်ပြေးကြပါတယ်။



We came to a tall tree, and climbed it to be out of reach of the serpent, should it come that way. It was not long before the snake came hissing to the foot of the tree, and seeing us there, raised itself up against the trunk, and swallowed my comrade, who was a little lower than I was.

I was terrified, and remained in the tree for a long while. When at last I climbed down I fully expected to meet the same fate as my friends. The snake was not to be seen, however, so I hurriedly began to make myself some protection from it.

သစ်ပင်မြင့်မြင့်ကြီးတစ်ပင်ကို ကျွန်တော်တို့ ရောက်လာကြတယ်။ အကယ်၍ ဒီလမ်းကနေ မြွေကြီးလိုက်လာရင် လွတ်အောင်... မြွေကြီး မမီအောင်ဆိုပြီး သစ်ပင်ပေါ် တက်ကြတယ်၊ သိပ်မကြာလိုက်ပါဘူး... မြွေကြီးက တွန့်သံပေးပြီး သစ်ပင်ခြေရင်းကို ရောက်လာတယ်။ ကျွန်တော်တို့ကိုလည်း မြင်ရော... သစ်ပင်ပင်စည်ကနေ အပေါ်တက်လာပြီး... ကျွန်တော့်ရဲ့ ရောင်းရင်းရဲဘော်ကို မျိုလိုက်ပြန်တယ်၊ သူက ကျွန်တော့်ရဲ့အောက်ဘက်က လိုက်တက်လာလို့.. ကျွန်တော့်ထက် နိမ့်တဲ့နေရာမှာ ရှိနေတာကိုး။

ကျွန်တော် အရမ်းကြောက်ရွံ့တုန်လှုပ်မိတယ်၊ သစ်ပင်ပေါ်မှာပဲ အကြာကြီး ဆက်နေလိုက်ပါတယ်၊ နောက်ဆုံး... ကျွန်တော် သစ်ပင်ပေါ်ကဆင်းလာတဲ့အခါ... ကျွန်တော့်သူငယ်ချင်းတွေလိုပဲ တူညီတဲ့ကံကြမ္မာနဲ့ ကြုံရမှာပဲလို့... လုံးဝမျှော်လင့်ထားပါတယ်။ မြွေကိုတော့ မမြင်ရသေးပါဘူး၊ ဒါပေမဲ့... မြွေရဲ့ရန်ကနေ ကျွန်တော့်ကိုယ် ကျွန်တော် အကာအကွယ်ရဖို့ အလျင်အမြန် စတင်ဆောင်ရွက်ပါတယ်။



I gathered together small branches, thorns, and brambles, and bound them into faggots. These I placed all round me in a circle, and also tied some above my head in the tree. Then when night came I shut myself up in the circle. Soon the snake came along, hissing fiercely. It glided round and round the thorny rampart, but could not get in.

After a time it rolled up, and lay still, waiting for me to come forth. But this I did not do, and when day dawned the serpent glided away, and left me in safety.

သစ်ခက်တွေ... ဆူးတွေ... ဆူးပင်တွေကို ကျွန်တော် ရှာဖွေစုဆောင်းတယ်၊ အဲဒါတွေကို စုပြီး ထင်းစည်းလိုမျိုး ဖြစ်အောင် စည်းတယ်၊ အဲဒါတွေကိုဝိုင်းပြီး ကျွန်တော့် ပတ်ပတ်လည်မှာ ကာထားတယ်၊ ကျွန်တော့်ခေါင်းပေါ် ကိုလည်း လုံခြုံအောင်... အဲဒီဆူးစည်းတွေကို (ဆူးစည်း ခေါင်မိုးလို) သစ်ပင်နဲ့တွဲပြီး ချည်ထားတယ်။ အဲဒီနောက် ညရောက်လာတဲ့အခါ... ကျွန်တော်က ဆူးပင်စည်းဝိုင်း အတွင်းကိုဝင်ပြီး ဝင်ပေါက်ထွက်ပေါက်ကို ပိတ်လိုက်တယ်။ မကြာပါဘူး၊ အပြင်းအထန် တွန်သံပေးပြီး မြွေကြီး ရောက်လာပါတယ်။ ကျွန်တော့်ရဲ့ ဆူးကတုတ်ကို လှည့် လှည့်... ပြီး ပတ်တယ် (ဝင်ပေါက်ကို ရှာတယ်) ဒါပေမဲ့... အထဲကို ဝင်လို့မရပါဘူး။

အချိန်တော်တော်ကြာအောင် မြွေကြီးက မြေပြင်ပေါ် မှာ တွန့်လိုက် လိမ်လိုက်... လူးလိုက် လှိမ့်လိုက်လုပ်ပြီးတဲ့ နောက်... ကျွန်တော် ထွက်လာမှာကို ငြိမ်... ပြီး စောင့်နေ တယ်၊ ဒါပေမဲ့... ဒါမျိုး... ကျွန်တော်ကလည်း ဘယ်လုပ်လိမ့် မလဲ... (ကျွန်တော် အပြင်ဘက်ကို ဘယ်ထွက်လိမ့်မလဲ) ဒီတော့ နေအရုဏ်တက်လာတဲ့အခါ မြွေကြီးက ထွက်ခွာသွား ပါတယ်၊ ကျွန်တော်... ဘေးမသီရန်မခ ကျန်ခဲ့ပါတယ်။



I was so tired, and had suffered so much from the creature's poisonous breath, that I was full of despair. I ran down to the sea, meaning to throw myself into the water, when suddenly, to my great joy, I saw a ship passing in the distance!

I shouted, and waved my turban. The crew saw me, and the captain sent out a boat to take me. Everyone crowded round me when I arrived on the ship's deck, and asked me how I came to be on the island. I soon related my adventures, and the crew rejoiced that they had rescued me. The captain gave me one of his own suits, for I was all in rags.

ကျွန်တော် အရပ်းကို ပင်ပန်းနွမ်းလျနေပါပြီ။ ပြီးတော့ ဒီသတ္တဝါကြီးရဲ့ အဆိပ်ရှိတဲ့ ထွက်သက်ဝင်သက် ဖွဲ့လေမှုတ်ထုတ်တာတွေကို ရှူရှိုက်ရတဲ့အတွက် ကျွန်တော်ဟာ ဝေဒနာကိုလည်း ခံစားနေရပါတယ်၊ ဒါကြောင့် မျှော်လင့်ချက်ကုန်ဆုံးပြီး စိတ်ပျက်လက်ပျက်ကြီး ခံစားရပါတယ်။ ကျွန်တော့်ကိုယ် ကျွန်တော် ရေထဲ ပစ်ချ... ခုန်ချလိုက်တော့မယ်လို့ ရည်ရွယ်ပြီး... ပင်လယ်ဘက်ဆီကို ပြေးပါတယ်၊ အဲဒီအချိန်မှာ... ရုတ်တရက်ဆိုသလို... ကျွန်တော် အရပ်းဝမ်းသာသွားတာက... ခပ်လှမ်းလှမ်းကနေပြီး သင်္ဘောတစ်စီးဖြတ်သွားတာကို မြင်လိုက်ရလို့ပါပဲ!

ကျွန်တော်က အော်ဟစ်ပြီးလည်း... ခေါ်တယ်၊ ခေါင်းပေါင်းကိုလည်း ဝှေ့ယမ်းပြီးပြတယ်၊ သင်္ဘောသားတွေက ကျွန်တော့်ကို မြင်သွားတယ်၊ သင်္ဘောကက်ပတိန်က ကျွန်တော့်ကို ခေါ်ဖို့ လှေတစ်စီး လွှတ်ပေးတယ်။ သင်္ဘောကုန်းပတ်ပေါ် ကျွန်တော်ရောက်တဲ့အခါ... အားလုံးဝိုင်းအုံလာကြပြီး... ဒီကျွန်းပေါ် ဘယ်လိုရောက်လာတာလဲ... လို့ ကျွန်တော့်ကို မေးကြတယ်။ ကျွန်တော်က ကျွန်တော့်ရဲ့ စွန့်စားခန်းတွေ အံ့ဖွယ်သရဲ အဖြစ်အပျက်တွေကို ပြန်ပြောပြတယ်။ သင်္ဘောသားတွေက ကျွန်တော့်ကို ကယ်ဆယ်လိုက်ရတဲ့အတွက် ဝမ်းသာအားရဖြစ်ကြတယ်။ သင်္ဘောကက်ပတိန်က သူ့ဝတ်စုံတွေထဲက တစ်ခုကို ကျွန်တော်ဝတ်ဖို့ ပေးတယ်။ ဘာကြောင့်ဆို ကျွန်တော့်အဝတ်အစားတွေက လုံးဝစုတ်ပြတ်နေကြပြီလေ။



Then the ship sailed onwards again. We touched at many ports, and at last came to Salabat. Here the merchants began to unload their goods, and the captain, seeing that I had nothing to do, came up to me.

"I have some goods here belonging to a man that has died," he said. "If you like to trade with them, I will pay you for your trouble. The money I get from the goods I shall take to the dead man's family."

I consented, for I was glad of something to do. I took the goods to the clerk of the ship, whose duty it was to enter in a book the number of bales, and the names of the merchants to whom they belonged. I presented my bales to him, and asked the captain what was the name of the merchant who had once possessed them.

အဲဒီနောက်… သင်္ဘောက ရှေ့ဆက်ပြီး ရွက်လွှင့်ထွက်ခွာတယ်၊ ဆိပ်ကမ်းတွေအများကြီးမှာ ဝင်ရောက်ဆိုက်ကပ်ခဲ့တယ်၊ နောက်ဆုံးမှာ ဆလဘတ် ကို ရောက်ရှိခဲ့တယ်၊ အဲဒီနေရာမှာ… ကုန်သည်တွေက သူတို့ကုန်ပစ္စည်းတွေကို သင်္ဘောပေါ်ကနေချကြတယ်၊ ကျွန်တော့်မှာ ဘာမှလုပ်စရာမရှိဘူးဆိုတာ သိတဲ့အတွက်… ကက်ပတိန်က ကျွန်တော့်ဆီ ရောက်လာတယ်။

"သေသွားတဲ့ လူတစ်ယောက်ပိုင်တဲ့ ကုန်ပစ္စည်းတွေ ကျွန်တော့်မှာ ရှိတယ်ဗျ၊ အဲဒီ ကုန်ပစ္စည်းတွေကို ခင်ဗျား ရောင်းဝယ်ဖောက်ကားချင်တယ်ဆိုရင် ကျွန်တော် ပေးမယ်၊ ခင်ဗျား… ဒုက္ခခံဆောင်ရွက်ပေးတဲ့အဖိုးအခကို ကျွန်တော် ပေးမယ်၊ အဲဒီ ကုန်ပစ္စည်းတွေကနေရတဲ့ ငွေကြေးကိုတော့… သေသွားတဲ့ သူ့မိသားစုဆီ ကျွန်တော် ယူသွားပြီး ပေးလိုက်မယ်…" လို့ သူက ပြောတယ်။

ကျွန်တော်က သဘောတူလိုက်တယ်၊ အလကားနေရတာနဲ့စာရင် တစ်ခုခုလုပ်နေရတာ စိတ်ချမ်းသာတာပေါ့…၊ ကျွန်တော်က ကုန်ပစ္စည်းတွေကို သင်္ဘောစာရေးဆီ ယူသွားတယ်။ သူ့တာဝန်က ကုန်ထုပ်အရေအတွက်နဲ့ အဲဒီ ကုန်ပစ္စည်းကို ပိုင်ဆိုင်တဲ့ ကုန်သည်တွေရဲ့ အမည်တွေကို စာအုပ်တစ်အုပ်ထဲမှာ ရေးပြီးမှတ်ဖို့ ဖြစ်တယ်၊ စာရေးကို… ကျွန်တော်ယူလာတဲ့ ကုန်ထုပ်တွေ ပြလိုက်တယ်။ တစ်ခါတုန်းက ဒီပစ္စည်းတွေကို ပိုင်ခဲ့တဲ့ ကုန်သည်ရဲ့ နာမည်က ဘာလဲ… လို့ ကျွန်တော်က ကက်ပတိန်ကို မေးလိုက်တယ်။



"Enter them in the name of Sindbad," said the captain. I was astonished to hear my own name, as you may imagine. I looked closely at the captain, and found, to my great amazement, that he was no other than the one in whose ship I had sailed on my second voyage, and who had left me on the island of fruit trees, when I had fallen asleep! He had much altered since I had last seen him, but there was no doubt that it was he.

"Was the merchant's name really Sindbad?" I asked.



"ဆင်းဘတ် ဆိုတဲ့နာမည်နဲ့ စာရင်းသွင်းလိုက်" ပြီး ကက်ပတိန်က ပြောလိုက်တယ်။ ခင်ဗျားတို့ စဉ်းစားသာ ကြည့်ပါတော့... ကျွန်တော့်နာမည်ကို ကျွန်တော် ကြားလိုက်ရတဲ့အခါ... ကျွန်တော် ဘယ်လောက်အံ့သြမယ်ဆိုတာ..၊ ဒီတော့မှ သင်္ဘောကက်ပတိန်ကို အနားကပ်ပြီး သေသေချာချာ ကြည့်လိုက်တယ်။ ကျွန်တော် အကြီးအကျယ်အံ့သြသွားတယ်၊ တွေ့ရတဲ့လူဟာ... အခြား ဟုတ်ပါမိုးလား... ဒုတိယအကြိမ် ပင်လယ်ပြင်ကိုခရီးထွက်တုန်းက... ကျွန်တော် စီးခဲ့တဲ့သင်္ဘောရဲ့ ကက်ပတိန်လေ...။ သစ်သီးပင်တွေ ပေါက်တဲ့ကျွန်းမှာ... ကျွန်တော် အိပ်ပျော်နေတုန်း... ကျွန်တော့်ကိုထားခဲ့တဲ့ ကက်ပတိန်ပေါ့...! ကျွန်တော် နောက်ဆုံးတွေ့ခဲ့တဲ့အကြိမ်နဲ့စာလိုက်ရင်... သူဟာ အများကြီး ပြောင်းလဲသွားတာပဲ။ ဒါပေမဲ့... အဲဒီလူဟာ... သူမှန်း ဖြစ်တယ်ဆိုတာတော့ ဘာမှသံသယဖြစ်စရာ မရှိပါဘူး။

"ကုန်သည်ရဲ့ နာမည်က တကယ်ပဲ.. ဆင်းဘတ် လား ဗျ" လို့ ကျွန်တော်က မေးလိုက်တယ်။



"Yes," answered the captain. "He embarked on my ship, and sailed with me for some time. Then he, with some others, landed on an island. When we set sail again, he was left behind by mistake. His loss was not discovered till some hours later, and by that time we were driving before a strong wind, and could not return."

"You believe him to be dead, then?" I asked.

"Certainly I do," he answered.

"Now, captain," I said. "I beg you to look at me closely, and you will see that I am that Sindbad whom you left behind. I fell asleep by the brook, and when I awoke the ship was gone."

"ဟုတ်ပ့ါဗျာ..." လို့ ကက်ပတိန်က ဖြေတယ်၊ "သူ... ကျွန်တော့် သင်္ဘောပေါ် တက်ပြီး... ကျွန်တော်နဲ့အတူ အချိန် တော်တော်ကြာ ရွက်လွှင့်ထွက်ခွာခဲ့တယ်၊ အဲဒီနောက်... အခြားသင်္ဘောသားအချို့နဲ့အတူ ကျွန်းတစ်ကျွန်းပေါ် ကို သူ တက်သွားတယ်၊ ကျုပ်တို့ သင်္ဘောပြန်ထွက်တော့ မှားယွင်း ချွတ်ချော်ပြီး... သူ ကျန်ရစ်ခဲ့တယ်ဗျာ။ သူ ပျောက်ဆုံးနေ တာကို နာရီတော်တော်များများကြာတဲ့ထိ မသိကြဘူး၊ ကျွန်တော်တို့ သင်္ဘောကို နောက်ဘက်ကနေ လေပြင်းတွေ ပင့်တိုက်တဲ့အချိန်ကြကော့မှ... သိရတယ်၊ အဲဒီတော့ ဘယ်လို မှ ပြန်လှည့်လို့ မရတော့ဘူး။"

"ဒီလိုဆိုရင်... သူသေပြီလို့ ခင်ဗျား ယုံကြည်သွားပြီ လား... ?" လို့ ကျွန်တော်က မေးလိုက်တယ်။

"ကျိန်းသေကို ယုံတာပေ့ါဗျာ..." လို့ သူက ဖြေတယ်။

"ကဲ... ကက်ပတိန်... ကျေးဇူးပြုပြီး ကျွန်တော့်ကို သေသေချာချာ အနားကပ်ပြီးကြည့်ပါဦးလို့ တောင်းပန် ပါတယ်။ ခင်ဗျားထားရစ်ခဲ့တဲ့ ဆင်းဘတ် ဟာ ကျွန်တော်ပဲ ဆိုတာ ခင်ဗျားတွေ့ရပါလိမ့်မယ်။ ချောင်းနံဘေးမှာ ကျွန်တော် အိပ်ပျော်သွားတယ်။ ကျွန်တော်လည်း နိုးရော... သင်္ဘောက မရှိတော့ဘူး" လို့ ကျွန်တော်က ပြောလိုက် တယ်။

The captain looked at me in astonishment, and very soon he knew me again. He embraced me with delight, and bade me take my goods, together with the profit he had made on them.

I made much money on my homeward journey, and when I again returned to Balsora, and went from thence to Bagdad, I had so much wealth that I could not count it. I gave much to the poor, and bought another great estate. Then once again I enjoyed some years of peace and happiness.



ကက်ပတိန်က ကျွန်တော့်ကို တအံ့တသြနဲ့ ကြည့်လိုက်တယ်၊ သိပ်မကြာခင်မှာဘဲ ကျွန်တော့်ကို ပြန်ပြီး မှတ်မိသွားတယ်။ သူက ကျွန်တော့်ကို ဝမ်းမြောက်ဝမ်းသာ ပွေ့ဖက်နှုတ်ဆက်တယ်၊ ကျွန်တော့်ရဲ့ (ကျန်တဲ့) ကုန်ပစ္စည်းတွေကို ပြန်ယူဖို့ရယ်၊ သူ ရောင်းချထားတဲ့ ကုန်ပစ္စည်းတွေအတွက် အရင်းရော အမြတ်ပါ ရောင်းရငွေတွေကို ပြန်ယူဖို့ရယ် ပြောတယ်။

အိမ်အပြန်ခရီးမှာတော့ ကျွန်တော်ဟာ ငွေကြေးအမြောက်အမြား ပိုင်ဆိုင်ရရှိခဲ့တယ်။ ဘာလ်ဆိုရာ ဆိပ်ကမ်းမြို့ကို တစ်ဖန်ပြန်လည်ရောက်ရှိတယ်၊ အဲဒီကနေပြီးတော့မှ ဘဂ္ဂဒက်မြို့ကို သွားတယ်၊ ကျွန်တော့်မှာရှိတဲ့ မနစည်းစိမ်တွေဟာ များပြားလွန်းလို့... ကျွန်တော့်အနေနဲ့ ဘယ်၍ဘယ်မျှရှိတယ်ဆိုတာတောင် မရေတွက်နိုင်တော့ပါဘူး။ မရှိဆင်းရဲသားတွေကိုလည်း ပိုက်ဆံအမြောက်အမြား ပေးကမ်းလှူဒါန်းလိုက်တယ်၊ ကြီးကျယ်ခမ်းနားတဲ့ အခြားခြံကြီးဝင်းကြီးနဲ့ အဆောက်အဦကြီးတစ်ခုကိုလည်း ဝယ်ယူလိုက်တယ်။ အဲဒီနောက်မှာ တင်ခါထပ်ပြီး... နှစ်အတန်ကြာတဲ့အထိ ငြိမ်းငြိမ်းချမ်းချမ်း ပျော်ပျော်ရွှင်ရွှင်နဲ့ မွေ့လျော်နေထိုင် ခံစားခဲ့ပါတယ်။



## *Cannibal Island and the Friendly King*

Not even the charms of wealth and greatness could stop me from embarking on a fourth voyage. I had a fine journey until one day when our ship was right out at sea. A sudden gust of wind came, and we furled our sails quickly.

## လူသားစားကျွန်းနှင့်
## ရင်းနှီးဖော်ရွေသော ဘုရင်

ဓနစည်းစိမ်တွေ... ခမ်းနားကြီးကျယ်မှုတွေရဲ့ ဆွဲဆောင်မှုတွေကတောင်... ကျွန်တော့်ရဲ့ စတုတ္ထအကြိမ် ပင်လယ်ပြင်ခရီးအတွက် သင်္ဘောပေါ် တက်ချင်တဲ့ ဆန္ဒကို မဟန့်တားနိုင်ခဲ့ပါဘူး။ ကျွန်တော့်ခရီးစဉ်ဟာ... ပင်လယ်ပြင်ထဲ ရောက်သွားတဲ့... နေ့တစ်နေ့အထိ သာတောင့်သာယာနဲ့ ချောမောကောင်းမွန်ခဲ့ပါတယ်၊ အဲ... ဒီနေ့မှာတော့... လေပြင်းတွေ ရုတ်တရက် ကျရောက်တိုက်ခတ်ခဲ့ပါတယ်။ ဒီတော့ ကျွန်တော်တို့လည်း သင်္ဘောက ရွက်တွေကို ခပ်မြန်မြန်လိပ်လိုက်ကြပါတယ်။



It was too late. The sails were torn to rags, and the ship driven on to a sandbank. Many of my comrades perished, but I and a few others got hold of a plank. We were carried to an island, and there we found fruit and spring water, which saved us from perishing.

When we walked inland, we came to some houses. Suddenly a number of men rushed out, seized us, and carried us off. We were made to sit down, and given a certain herb to eat. My five companions, not noticing that the men ate none themselves, swallowed the herb greedily.

သိပ်နောက်ကျလွန်းသွားပါတယ်၊ ရွက်ကြွေဟာ အစိတ်စိတ်အမွှာမွှာ စုတ်ပြတ်ကုန်ပါတယ်၊ လေပြင်းက... သင်္ဘောကိုလည်း သဲသောင်ပြင်တစ်ခုပေါ် တင်သွားတဲ့အထိ တိုက်ခတ်ပါတယ်၊ ကျွန်တော့်ရဲဘော်ရဲဘက် တော်တော်များများ သေဆုံးကုန်ကြတယ်၊ ဒါပေမဲ့ ကျွန်တော်နဲ့ အခြားလူအနည်းငယ်ကတော့ ပျဉ်ချပ်ကြီးတစ်ချပ်ကို ဖက်တွယ်ထားကြတယ်၊ ကျွန်တော်တို့ ပျဉ်ချပ်ကို ဖက်တွယ်မျောပါနေရင်းက ကျွန်းလေးတစ်ကျွန်းကို ရောက်ခဲ့တယ်၊ အဲဒီကျွန်းပေါ်မှာ သစ်သီးတွေနဲ့ စမ်းရေကို တွေ့တယ်၊ အဲဒါတွေက ကျွန်တော်တို့ကို သေဘေးမှ ကယ်တင်နိုင်ခဲ့တယ်။

ကျွန်းတွင်းပိုင်းကို ကျွန်တော်တို့ ဝင်သွားတဲ့အခါ... အိမ်အချို့ရှိတဲ့ဆီ ရောက်လာတယ်၊ ရုတ်တရက်... ယောကျ်ားတွေအများကြီး ထွက်လာကြတယ်၊ သူတို့က ကျွန်တော်တို့ကို ဖမ်းဆီးပြီး အခြားတစ်နေရာသို့ ခေါ်ဆောင်သွားကြတယ်။ ကျွန်တော်တို့ကို ထိုင်ခိုင်းပြီး... စားသောက်လို့ရတဲ့ အပင်အရွက်အချို့ကို ကျွေးတယ်။ ကျွေးတဲ့ လူတွေကိုယ်တိုင်ကတော့ အဲဒါတွေကို မစားဘူးဆိုတာ သတိမထားမိတဲ့... ကျွန်တော့်အဖော် ငါးယောက်က အဲဒီအရွက်တွေကို လောဘတကြီး အငမ်းမရ ဝါးမျိုစားသောက်ပစ်လိုက်ကြတယ်။



I would not even taste mine, and it was good for me that I did not – for the effect of the herb was to make a man lose his wits and talk nonsense.

After giving us the herb, the men brought forth much rice, prepared with oil of cocoa. My comrades ate all of this, poor wretches, not having sense enough to guess that these men were eaters of men; they did not see, as I did, that they were being made fat in order to be eaten. The herb had robbed them of their senses.

ကျွန်တော့်အတွက် ပေးထားတဲ့ဟာတွေကို ကျွန်တော်ကတော့ မြည်းတောင် မကြည့်ပါဘူး။ အဲဒီလို မစားမိခဲ့တာလည်း ကျွန်တော့်အတွက် ကောင်းပါတယ်၊ ဘာကြောင့်လဲဆိုတော့... အဲဒီအပင်ရဲ့ အကျိုးဆက်အာနိသင်က... (စားမိတဲ့) လူတစ်ယောက်ရဲ့ အသိဉာဏ်နဲ့ ဆင်ခြင်တုံတရားကိုပျောက်သွားစေပြီး အဓိပ္ပါယ်မဲ့... မရေမရာစကားတွေ လျှောက်ပြောတော့တာပါပဲ။

ကျွန်တော်တို့ကို အဲဒီအပင်တွေပေးပြီးတဲ့အခါ... အဲဒီလူတွေက... ကိုကိုးဆီနဲ့ ပြင်ဆင်ချက်ပြုတ်ထားတဲ့ ထမင်းတွေအများကြီး ယူလာတယ်၊ ကျွန်တော့်ရဲဘော်ရောင်းရင်းတွေက အဲဒီ... ထမင်းတွေ ကုန်အောင်စားပစ်လိုက်ကြတယ်၊ သနားစရာကောင်းပြီး အတော်အသုံးမကျတဲ့ ကောင်တွေပဲ...။ ဒီလူတွေဟာ လူသားစားတဲ့လူတွေပဲ... လူသားကိုသူတို့စားတဲ့အခါ... ဆူဆူဖြိုးဖြိုးနဲ့ စားလို့ကောင်းအောင်... ဝလာအောင် ပြုလုပ်ပေးနေကြတာပဲလို့တွေးဆဖို့ အသိဉာဏ်တောင် မရှိတော့ပါဘူး၊ ကျွန်တော် သဘောပေါက်သိရှိသလို သူတို့မသိကြပါဘူး။ အဲဒီအပင်အရွက်တွေက သူတို့ရဲ့ အသိဉာဏ်ဆင်ခြင်တုံတရားတွေကို ဆုံးရှုံးသွားစေပါတယ်။



When they had become fat, the men ate them. But as for me, I would not touch my food, and became thinner every day.

No one took much notice of me, and I was allowed to go where I pleased; so it was not difficult for me to escape. I chose a day when all the men were away, except for one old man. Then I set out to run as fast as I could away from the cannibals.

I travelled for seven days, living mostly on coconuts, and on the eighth I came near the sea. Suddenly I saw a great many people like myself, gathering pepper, which grew plentifully in that place.

သူတို့ ဆူပြုံးလာတဲ့အခါ... အဲဒီလူတွေက သူတို့ကို စားပါတယ်။ ကျွန်တော်ကတော့... ကျွန်တော့် (ကိုပေးတဲ့) အစားအစာကို ထိတောင်မကြည့်ပါဘူး၊ ဒါကြောင့် နေ့စဉ် နဲ့အမျှ ကျွန်တော်က ပိန်သည်ထက်... ပို ပိန်ပိန်လာပါတယ်။

ကျွန်တော့်ကို ဘယ်သူကမှ သိပ်ဂရုမစိုက်ကြပါဘူး၊ ကျွန်တော့်စိတ်ကြိုက် သွားလိုရာ သွားဖို့ကိုလည်း ခွင့်ပြု ထားပါတယ်၊ ဒါကြောင့် ကျွန်တော့်အတွက် လွတ်မြောက်ဖို့ ကတော့ မခက်လှပါဘူး။ အဘိုးအိုကြီးတစ်ယောက်က လွဲရင် အဲဒီလူတွေအားလုံးမရှိတဲ့နေ့တစ်နေ့ကို ကျွန်တော် ရွေးလိုက်တယ်၊ အဲဒီလိုအချိန်မျိုးမှာ... လူသားစားတဲ့ လူတွေဆီကနေပြီး... ဝေးအောင် တတ်နိုင်သမျှ အမြန်ဆုံး ပြေးထွက်ခဲ့ပါတော့တယ်။

ခုနစ်ရက်လောက် ကျွန်တော်ခရီးဆန့်ခဲ့တယ်၊ အဓိက အားဖြင့်... အုန်းသီးတွေကို စားပြီး အသက်ရှင်နေထိုင်ခဲ့ပါ တယ်၊ ရှစ်ရက်မြောက်နေ့မှာတော့ ပင်လယ်ပြင်နားကို ကျွန်တော် ရောက်ရှိခဲ့ပါတယ်၊ ရုတ်တရက်... ကျွန်တော့်လို လူမျိုးအများကြီးကို တွေ့ရတယ်၊ အဲဒီနေရာမှာ အများ အပြားပေါက်ရောက်နေတဲ့ ငရုတ်ကောင်းတွေကို ခူးနေကြ တာခလေ။



I went to meet them, and they gathered round me, marvelling at my story. Then, when they had finished plucking the pepper, they set sail in their ship, taking me with them. They went to an island, and presented me to their king, who was a good and noble prince.

The island was a fine place to live in, for there was plenty of everything, and much trade was done with ships that came to the port. I was very happy there, especially as the king showed me much favour.

ကျွန်တော်က သူတို့နဲ့ သွားတွေ့တယ်၊ သူတို့က ကျွန်တော့်အနားကို စုရုံးဝိုင်းအုံလာကြတယ်၊ ကျွန်တော် ပြောပြတဲ့အဖြစ်အပျက်တွေကို တအံ့တဩ နားထောင်ရင်း နဲ့ပေါ့။ အဲဒီနောက်... ငရုတ်ကောင်းခူးပြီးတဲ့အခါ... သူတို့ တွေက သူတို့ရဲ့ သင်္ဘောတွေနဲ့ ရွက်လွှင့်ထွက်ခွာသွားကြ တယ်။ ကျွန်တော့်ကိုလည်း ခေါ်သွားကြတယ်၊ သူတို့က ကျွန်းတစ်ကျွန်းကို သွားကြတယ်၊ အဲဒီရောက်တော့ သူတို့ ဘုရင်ထံ ကျွန်တော့်ကို ဆက်သကြတယ်။ သူက ကောင်းမွန် မြင့်မြတ်တဲ့ ဥသျှောင်မင်းသားကြီးတစ်ပါးဖြစ်တယ်။

အဲဒီကျွန်းက သာတောင့်သာယာရှိပြီး နေဖို့ထိုင်ဖို့ ကောင်းတဲ့ နေရာတစ်ခုဖြစ်တယ်၊ ဘာကြောင့်ဆို အဲဒီမှာ အရာရာဟာ ပေါကြွယ်များပြားတယ်၊ ဆိပ်ကမ်းကို ရောက် လာတဲ့ သင်္ဘောတွေနဲ့ ကုန်ကူးသန်းရောင်းဝယ်မှု အများကြီး လုပ်တယ်၊ အဲဒီမှာနေရတာ ကျွန်တော် သိပ်ပြီးစိတ်ချမ်း သာတယ်၊ အထူးသဖြင့် ဘုရင်မင်းတရားက ကျွန်တော့် အပေါ် အများကြီး ညှာတာကူညီတယ်...၊ ကျွန်တော့်ကို မျက်နှာသာပေးတယ်။ ကျွန်တော်နဲ့ ပန်းစားတယ်။



I noticed a very curious thing, whilst I was in that land, and that was that no one, not even the king himself, used bridle, saddle, or stirrups when riding a horse. I went to the king and asked him why.

"I do not know what you mean by saddle and bridle and stirrups," he said, puzzled. "What are these things? They are unknown in my country."



ကျွန်းပေါ်မှာ ကျွန်တော် နေ နေခိုက်... သိပ်ကို ထူးဆန်းတာ တစ်ခုကို သတိပြုမိတယ်၊ အဲဒါက ဘာလဲဆို တော့... မြင်းစီးတဲ့အခါ... ဘယ်သူမှ (ဘုရင်မင်းမြတ် ကိုယ်တော်တိုင်တောင်မှ) မြင်းဇက်ကြိုးတွေ... ကုန်းနှီး... ဒါမှ မဟုတ် ခြေနင်းကွင်းအစုံတွေကို မသုံးကြဘူး။ ကျွန်တော်က ဘုရင်ကြီးထံသွားပြီး ဘာကြောင့် အဲဒါတွေကို မသုံးတာလဲလို့ လျှောက်ထားမေးမြန်းတယ်။

"မောင်မင်းပြောတဲ့ ကုန်းနှီး၊ ဇက်ကြိုး၊ ခြေနင်းကွင်း ဆိုတာ ဘာကို ဆိုလိုသလဲလို့ ကျွန်ုပ် နားမလည်ဘူး..." လို့ သူက သဘောမပေါက်ဘဲ... ပြန်ဖြေတယ်။ "အဲဒါတွေက ဘာတွေလဲ... ? ကျွန်ုပ်တိုင်းပြည်မှာ အဲဒါမျိုးကို မသိကြဘူး..."



I immediately went to a workman, and told him exactly how to make a saddle, which I myself covered with gold-embroidered leather. Then I had some stirrups and a bridle made, all of which I presented to the king. I put them upon one of his horses, and when he mounted, he was so delighted with them that he made me handsome presents.

It was not long before I had made many saddles and bridles for all the nobles of the court, and soon I became rich and famous. Then one day the king called me to him and spoke to me.

ကျွန်တော်က အလုပ်သမားတစ်ယောက်ဆီ ချက်ချင်း သွားတယ်။ မြင်းကုန်းနှီးတစ်ခုကို ဘယ်လိုလုပ်ရမယ်ဆိုတာ သူ့ကို တိတိကျကျ ပြောပြတယ်။ အဲဒီကုန်းနှီးကို ကျွန်တော် ကိုယ်တိုင် ရွေးပန်းထိုးထားတဲ့ သားရေနဲ့ ဖုံးတယ်၊ ပြီးတော့ ခြေနင်းကွင်းအစုံနဲ့ မြင်းဇက်ကြိုးကို လုပ်ခိုင်းတယ်။ အဲ့ဒါ တွေအားလုံးကို ကျွန်တော်က ဘုရင်ကြီးထံ လက်ဆောင် အဖြစ် ဆက်သတယ်။ ကျွန်တော်က အဲဒါတွေကို သူ့မြင်း တွေထဲက တစ်ကောင်ပေါ်မှာ တင်ပြီး တပ်ဆင်ပေးလိုက် တယ်။ ဘုရင်က မြင်းပေါ်တက်ပြီး စီးကြည့်တဲ့အခါ... အဲဒီ ပစ္စည်းတွေကို အလွန်တရာ သဘောကျတော်မူတဲ့အတွက်... ကျွန်တော့်ကို လှပကောင်းမွန်တဲ့ လက်ဆောင်တွေ ချီးမြှင့် ပေးသနားတယ်။

သိပ်မကြာပါဘူး၊ နန်းတော်ထဲက မှူးမတ်တွေအားလုံး အတွက် မြင်းကုန်းနှီးတွေ... ဇက်ကြိုးတွေ အများကြီး ကျွန်တော် လုပ်ရပါတယ်၊ မကြာမီ... ကျွန်တော် ကြွယ်ဝ ချမ်းသာပြီး နာမည်ကျော်ကြား လူသိများလာပါတယ်။ ဒီလိုနဲ့... တစ်နေ့ကျတော့... ဘုရင်မင်းကြီးက ကျွန်တော့်ကို ခေါ်ပြီး မိန့်တော်မူတယ်။



"Sindbad, I love you," he said. "I wish you to do something for me."

"What is that?" I asked.

"I wish you to marry a lady of my land," he said.

"Then you will settle down in my kingdom, and forget all about your own country."

I did not wish to do this, but I dared not disobey the king. Soon I was given a beautiful maiden for wife, and I lived with her in a lovely house. But I could never forget my own countrymen, and longed to return to my home.

"ဆင်းဘတ်... မောင်မင်းကို ကျွန်ုပ်... သံယောဇဉ် ရှိတော်မူတယ်၊ ငါကိုယ်တော်မြတ်အတွက် မောင်မင်း... တစ်ခုခု လုပ်ပေးစေချင်တယ်..." လို့ သူက မိန့်မြွက်တယ်။

"ဘာများဆောင်ရွက်ပေးရပါမည်လဲ ဘုရား" လို့ ကျွန်တော်က လျှောက်ထားမေးမြန်းတယ်။

"ကျွန်ုပ်တိုင်းပြည်က အမျိုးသမီးတစ်ယောက်နဲ့ မောင်မင်း... လက်ထပ်စေချင်တယ်၊ ဒီလိုဆိုရင်... ငါ့ရဲ့ နေပြည်တော်မှာ မောင်မင်း အခြေတကျဖြစ်သွားမယ်၊ မောင်မင်းရဲ့တိုင်းပြည်ကိုလည်း မေ့မေ့ပျောက်ပျောက် ဖြစ်သွားမယ်..." လို့ မိန့်မြွက်တယ်။

ဒီကိစ္စကို ကျွန်တော် လုပ်ဆောင်လိုစိတ် မရှိဘူး။ ဒါပေမဲ့... ဘုရင့်အမိန့်ကို မလွန်ဆန်ရဲဘူး...၊ မကြာမီ လှပတဲ့ အမျိုးသမီးတစ်ယောက်ကို ကျွန်တော့်ရဲ့ဇနီးအဖြစ် ပေးအပ်တယ်၊ လှပတဲ့အိမ်ကြီးတစ်ဆောင်မှာ ကျွန်တော်နဲ့ သူ(မ) အတူတူနေကြတယ်၊ ဒါပေမဲ့ ကျွန်တော့်တိုင်းပြည်... ကျွန်တော့်လူမျိုးတွေကိုတော့ ကျွန်တော် ဘယ်တော့မှ မမေ့နိုင်ပါဘူး၊ ကျွန်တော့်ဇာတိကို ကျွန်တော်ပြန်ဖို့ တမ်းတမိတယ်။



One day a friend of mine sent me bad news. His wife had fallen ill and died. I hastened to comfort him.

"God preserve you." I said, when I saw him, "and may he grant you a long life!"

"What do you mean?" he asked in surprise. "Do you not know that I have only one hour more to live?"

"How is that?" I asked.

"It is the custom in this country to bury the live husband with the dead wife," he answered.

တစ်နေ့... ကျွန်တော့်မိတ်ဆွေတစ်ယောက်က ကျွန်တော့်ဆီ သပေါင်းဆိုးတွေ ပို့တယ်၊ သူ့ဇနီးဟာ ဖျားနာပြီး သေဆုံးသွားတယ်ဆိုတဲ့ သတင်းပေါ့၊ နှစ်သိမ့်အားပေးဖို့အတွက် သူ့ဆီကို အမြန်ဆုံးသွားခဲ့တယ်။

သူ့ကိုတွေ့တော့ "ဘုရားသခင်က သင့်အား ကာကွယ်စောင့်ရှောက်ပါစေ...၊ ဘုရားသခင်က သင့်အား သက်တမ်းရှည်ကြာ နေခွင့်ပြုပါစေ..." လို့ ကျွန်တော် ဆုမွန်ကောင်းတောင်းပေးလိုက်တယ်။

"ခင်ဗျား... ဘာကိုဆိုလိုတာလဲ?" လို့ သူက ကျွန်တော့်ကို တအံ့တဩမေးတယ်။ "ကျွန်တော် ဆက်လက်ပြီး အသက်ရှင်နေထိုင်ဖို့ တစ်နာရီပဲ ကျန်တော့တယ်ဆိုတာ ခင်ဗျား မသိဘူးလား?" လို့ သူက မေးတယ်။

"ဒါက ဘယ်လိုဖြစ်တာလဲ... ?" လို့ ကျွန်တော်က ပြန်မေးလိုက်တော့...

"ဒါက ဒီတိုင်းပြည်ရဲ့ ဓလေ့ထုံးစံပဲလေ... သေဆုံးသွားတဲ့ ဇနီးသည်နဲ့အတူ အသက်ရှင်လျက်ရှိတဲ့ ခင်ပွန်းသည်ကို တစ်ပါတည်း မြှုပ်နှံသင်္ဂြိုဟ်ကြတယ်" လို့ သူက ဖြေတယ်။



This filled me with horror, for, I thought, if my wife should die, I should meet my own death too.

For many days I was full of fear lest this should happen. Then, alas! what I feared came to pass. My wife fell ill, and in a short time she died.

There was no help for me. The king said that although I was a stranger to the country, I must keep to the customs, for I had married one of his ladies. Therefore, when the time came for my wife to be buried, I was taken too. The cavalcade went up the mountains, and in my despair I suddenly broke away and ran for my life.

ကျောက်တုံးကြီးတစ်တုံးနဲ့ ပိတ်ထားတဲ့ တွင်းကြီးတစ်ခု ဆီကို ကျွန်တော် ရောက်လာတယ်၊ ကျွန်တော်က ကျောက်တုံးကို မပြီး တွင်းထဲ ဆင်းလိုက်တယ်၊ ဘယ်သူမှ ကျွန်တော့်ကို မတွေ့ကြဘူး၊ အဲဒီမှာ... ရက်ပေါင်းများစွာ ကြာအောင် ကျွန်တော်နေခဲ့တယ်၊ အဲဒီလို နေ့နေတုန်း အမှောင်ထဲမှာ ကျွန်တော့်ကို တစ်ခုခုက လာတိုက်တယ်။ အဲဒီသတ္တဝါဟာ ပင်လယ်ထဲကနေ တက်လာတဲ့ ရေသတ္တဝါ တစ်မျိုးဖြစ်တယ်၊ အဲဒီကောင် အနီးအနားမှာ ရှိနေမှန်း ကျွန်တော် မသိခဲ့ဘူး။

ကျဉ်းမြောင်းပြီး ကွေ့ကောက်နေတဲ့ လမ်းကလေး အတိုင်း အဲဒီတိရစ္ဆာန်ရဲ့နောက်ကို ကျွန်တော် လိုက်ခဲ့တယ်။ အဲဒီလမ်းက တောင်ကြီးရဲ့တစ်ဝက်လောက်ကနေ ထိုး ဖောက်ပြီး ပင်လယ်ထဲ ဆင်းသွားတယ်၊ နေရောင်ခြည်ကလေး ကို ပြန်မြင်ရတာ... လတ်ဆတ်တဲ့ ပင်လယ်လေလေးကို တစ်ဖန်ပြန်ရှူရှိုက်ရတာ ကံကောင်းလိုက်တာဗျာ!



I came to a pit whose top was covered by a stone. I lifted it up, and let myself down. No one discovered me, and I stayed there for several days. Then something came blundering against me in the dark. It was some sea animal that had come up from the sea-shore, which I had not known was near.

I followed the creature along a narrow, winding passage, which pierced through the heart of the mountain right down to the sea. How thankful I was to see daylight again, and to breathe the fresh sea air!

ကျောက်တုံးကြီးတစ်တုံးနဲ့ ပိတ်ထားတဲ့ တွင်းကြီးတစ်ခုဆီကို ကျွန်တော် ရောက်လာတယ်၊ ကျွန်တော်က ကျောက်တုံးကို မပြီး တွင်းထဲ ဆင်းလိုက်တယ်၊ ဘယ်သူမှ ကျွန်တော့်ကို မတွေ့ကြဘူး၊ အဲဒီမှာ... ရက်ပေါင်းများစွာကြာအောင် ကျွန်တော်နေခဲ့တယ်၊ အဲဒီလို နေ့နေတုန်း အမှောင်ထဲမှာ ကျွန်တော့်ကို တစ်ခုခုက လာတိုက်တယ်။ အဲဒီသတ္တဝါဟာ ပင်လယ်ထဲကနေ တက်လာတဲ့ ရေသတ္တဝါတစ်မျိုးဖြစ်တယ်၊ အဲဒီကောင် အနီးအနားမှာ ရှိနေမှန်း ကျွန်တော် မသိခဲ့ဘူး။

ကျဉ်းမြောင်းပြီး ကွေ့ကောက်နေတဲ့ လမ်းကလေးအတိုင်း အဲဒီတိရစ္ဆာန်ရဲ့နောက်ကို ကျွန်တော် လိုက်ခဲ့တယ်။ အဲဒီလမ်းက တောင်ကြီးရဲ့တစ်ဝက်လောက်ကနေ ထိုးဖောက်ပြီး ပင်လယ်ထဲ ဆင်းသွားတယ်၊ နေရောင်ခြည်ကလေးကို ပြန်မြင်ရတာ... လတ်ဆတ်တဲ့ ပင်လယ်လေလေးကို တစ်ဖန်ပြန်ရှူရှိုက်ရတာ ကံကောင်းလိုက်တာဗျာ!



For two or three days I stayed on the sea-shore. Then I saw a vessel that had left the port of the island, and I hailed her. She saw me, and sent a boat to bring me to her. I told the captain I had been shipwrecked, for I did not want him to send me back to the king. Happily, he believed my story, and allowed me to sail with him on his ship.

ပင်လယ်ကမ်းခြေမှာ နှစ်ရက် သုံးရက်လောက်ကြာအောင် နေခဲ့တယ်၊ အဲဒီနောက်... ကျွန်း ဆိပ်ကမ်းကနေထွက်ခွာသွားတဲ့ သင်္ဘောတစ်စီးကို ကျွန်တော် မြင်တယ်။ ကျွန်တော်က လှမ်းအော်ပြီး ခေါ်တယ်။ ကျွန်တော့်ကို မြင်သွားကြတယ်။ ကျွန်တော့်ကို ခေါ်ဖို့အတွက် လှေလေးတစ်စီး လွှတ်ပေးတယ်။ ကျွန်တော် သင်္ဘောပျက်ပြီး ဒီရောက်နေတာပါလို့ သင်္ဘောကက်ပတိန်ကို ပြောလိုက်တယ်၊ ဘာကြောင့်လဲဆိုတော့... သင်္ဘောကက်ပတိန်က ကျွန်တော့်ကို ဘုရင့်ထံပြန်မပို့စေချင်လို့ပါပဲ။ စိတ်ချမ်းသာစရာ ကောင်းတာက... ကျွန်တော်ပြောတာကို သူ ယုံကြည်တယ်၊ သူ့သင်္ဘောပေါ်မှာ လိုက်ပါစီးနင်းခွင့်ပြုတယ်။

We went to many ports, and by good fortune I did some profitable trade with goods that the captain kindly gave me. When at last I arrived at Balsora again, I had infinite riches, and was able to make great gifts to the poor and to the church. Then I settled down happily to enjoy my kindred and friends, eager to forget how near I had been to death.





ဆိပ်ကမ်းပေါင်းများစွာကို ကျွန်တော်တို့ ဆိုက်ကပ်ခဲ့ပါတယ်။ ကက်ပတိန်က ကျွန်ကော့်ကို ကြင်နာသနားလို့ပေးတဲ့ ကုန်ပစ္စည်းတွေနဲ့ ရောင်းဝယ်ဖောက်ကားတယ်၊ အကျိုးအမြတ်ဖြစ်ထွန်းခဲ့ပါတယ်၊ နောက်ဆုံး... ဘာလ်ဆိုရာ ဆိပ်ကမ်းပြန်ရောက်လာတဲ့အခါ ကျွန်တော်ပိုင်တဲ့ ဓနဥစ္စာတွေက အသင်္ချေ အနန္တပါပဲ။ မရှိဆင်းရဲသားတွေကို လက်ဆောင်ပစ္စည်းတွေ ပေးနိုင်... ဘုရားရှိခိုးကျောင်းတွေကိုလည်း လှူဒါန်းနိုင်ခဲ့ပါတယ်။

ကျွန်တော့်ရဲ့ ဆွေမျိုးသားချင်းတွေ၊ မိတ်ဆွေသင်္ဂဟတွေနဲ့ မွေ့လျော်ပျော်ပိုက်နေထိုင်ဖို့.. သေတွင်းနဲ့ ဘယ်လောက်ထိ နီးခဲ့တယ်ဆိုတဲ့ ဝေဒနာတွေကို မေ့ဖျောက်ဖို့... ကျွန်တော်ဟာ ဒီနေရာမှာပဲ ပျော်ပျော်ရွှင်ရွှင်နဲ့ အခြေချ နေထိုင်လိုက်ပါတော့တယ်။





## *The Old Man of the Sea*

After some time I decided to build myself a ship, and go voyaging once more. When my vessel was ready, I embarked on board, taking with me many other merchants and their goods.

We sailed with a fair wind, and were some weeks on the open sea. The first place we came to was a desert island, and there we found an enormous egg. It was a roc egg, and the young bird inside was on the point of hatching.

## ပင်လယ်ပျော် အဘိုးအို

အချိန်တော်တော်ကြာလာပြန်တော့... ကျွန်တော် ကိုယ်တိုင် သင်္ဘောတစ်စီး တည်ဆောက်ပြီး ပင်လယ်ပြင် ခရီးကို နောက်တစ်ကြိမ် ထပ်ထွက်မယ်လို့... ဆုံးဖြတ်ပိပြန်တယ်။ ကျွန်တော့်သင်္ဘော အဆင်သင့်ဖြစ်တဲ့အခါ... ကျွန်တော် သင်္ဘောပေါ်တက်တယ်၊ ကျွန်တော်နဲ့အတူ အခြားကုန်သည်တွေနဲ့ သူတို့ရဲ့ ကုန်ပစ္စည်းတွေကိုလည်း သယ်ဆောင်သွားတယ်။

လေကြောင်းသင့်တုန်းမှာ ကျွန်တော်တို့ ရွက်လွှင့်ထွက်ခွာခဲ့တယ်။ ပင်လယ်ပြင်ကြီးထဲမှာ ရက်သတ္တပတ်တော်တော်များများ ကြာခဲ့တယ်၊ ကျွန်တော်တို့ ပထမဦးဆုံး ရောက်ရှိခဲ့တဲ့ နေရာကတော့... လူသူမရှိတဲ့... ကျွန်းတစ်ကျွန်း ဖြစ်ပါတယ်။ အဲဒီကျွန်းပေါ်မှာ အလွန်အင်ပတန်ကြီးမားတဲ့ ဥကြီးတစ်လုံးကို တွေ့တယ်။ ဂဠုန်ဥကြီး တစ်လုံးပေါ့...၊ ဥထဲမှ အကောင်လေးက ပေါက်တော့မယ့်ဆဲဆဲ ဖြစ်နေပြီ။



"Do not meddle with the egg," I warned the merchants who were with me. "The parent rocs are dangerous."

But they took no heed of my words. They broke open the egg with their hatchets, dragged out the young bird piece by piece, and roasted it.

They had hardly finished their feasting when two large black clouds appeared in the sky.

"Here are the parent rocs!" shouted the captain. "Let us embark again with all speed before they try to revenge themselves on us!"



"အဲဒီ ဥ ကို သွားပြီး မပတ်သက်နဲ့... ဘာမှ သွားမလုပ်ကြနဲ့...၊ မိဘဂဠုန်ငှက်ဖိုနဲ့ ငှက်မဟာ သိပ်အန္တရာယ်ကြီး သိပ်ကြောက်စရာကောင်းတယ်" လို့ ကျွန်တော်က ကျွန်တော်နဲ့အတူပါလာတဲ့ ကုန်သည်တွေကို သတိပေးတယ်။

ဒါပေမဲ့... သူတို့က ကျွန်တော်ပြောတဲ့စကားတွေကို အလေးမထားဘူး။ သူတို့က သူတို့ရဲ့ ရဲတင်းတွေ သုံးပြီး ဥကို ခွဲတယ်၊ ငှက်ကလေးကို ဆွဲထုတ်တယ်၊ တစ်စစီဖဲ့ပြီး မီးကင် စားတယ်။

ကောင်းကင်မှာ တိမ်မည်းမည်းကြီးနှစ်ခု ပေါ်ပေါက်လာတဲ့အချိန်မှာ... သူတို့ရဲ့ အရသာခံ စားသောက်ပွဲကြီးက အပြီးမသတ်သေးပါဘူး။

"ဟောဒီမှာ ဂဠုန်ငှက်ဖိုနဲ့ ငှက်မ လာပြီ...!" လို့ သင်္ဘောကက်ပတိန်က အော်လိုက်တယ်၊ "သူတို့တွေက ဒို့ကို ကလဲ့စားချေဖို့ ပကြီးစားခင်... သင်္ဘောပေါ်ကို အမြန်ဆုံး ပြန်ပြီးတက်ကြ... !"



We hurriedly re-embarked and set sail. We watched the two rocs find their broken egg, and heard them bewail it with a terrible noise. Then suddenly they arose in the air, and flew off in the direction from which they had come. We sailed away as fast as we could, but alas! It was of no use.



ကျွန်တော်တို့တွေ… သင်္ဘောပေါ် အမြန်ဆုံး ပြန်တက်ပြီး ရွက်လွှင့်ထွက်ခွာခဲ့တယ်။ ငှက်ဖိုနဲ့ ငှက်မနှစ်ကောင်က သူတို့ရဲ့… ကွဲကြေသွားတဲ့ ဥကို တွေ့သွားတာကို ကျွန်တော်တို့ စောင့်ကြည့် တွေ့မြင်ကြရတယ်၊ ကြောက်မက်ဖွယ် အသံကြီးနဲ့ ဝမ်းနည်းပက်လက် ညည်းညူအော်ဟစ်တဲ့ သူတို့ရဲ့ အသံကြီးကိုလည်း ကြားခဲ့ကြရတယ်။ ပြီးတော့… ရုတ်တရက် ကောင်းကင်ပေါ် ပျံတက်ပြီး… သူတို့လာခဲ့တဲ့ လမ်းအတိုင်း ပျံသန်းထွက်ခွာသွားကြတယ်။ ကျွန်တော်တို့လည်း တတ်နိုင်သမျှ အမြန်ဆုံးနှုန်းနဲ့ ရွက်လွှင့်ထွက်ခွာခဲ့တယ်။ ဒါပေမဲ့… ဖြစ်မှဖြစ်ရလေဗျာ…! ကျွန်တော်တို့ ဘယ်လိုပဲ ကြိုးစား… ကြိုးစား… အချည်းနှီး အကျိုးမဲ့ပါပဲ။



Soon the giant birds returned, each one holding in its beak a tremendous stone. They flew immediately above our vessel, and one dropped its stone. If the steersman had not cleverly turned our ship about, we should have been struck. Then the other roc dropped the stone it held. It fell right on to our vessel, split it into a thousand pieces, and sank it. All the merchants on board were either killed or sunk.



မကြာပါဘူးပဲ… အလွန်ကြီးမားတဲ့ ငှက်ကြီးတွေ ပြန်လာကြတယ်၊ တစ်ကောင်ချင်းရဲ့ နှုတ်သီးထဲမှာ အုံးသြဖွယ်ကောင်းလောက်အောင် ကြီးမားတဲ့ ကျောက်တုံးကြီးတွေကို ချီလာကြတယ်၊ ကျွန်တော်တို့ သင်္ဘောရဲ့အပေါ် တည့်တည့်ကို ပျံသန်းလာကြတယ်၊ ငှက်တစ်ကောင်က သူ့ရဲ့ ကျောက်တုံးကို သင်္ဘောပေါ် လွှတ်ချတယ်၊ ပဲ့ထိန်းတဲ့လူက သာ ကျွမ်းကျင်လိမ္မာစွာနဲ့ သင်္ဘောကို လှည့်မပေးနိုင်ခဲ့ရင်… ကျွန်တော်တို့တွေကို ထိမှန်ပြီပေါ့ဗျာ။ အဲဒီနောက်… အခြားဂျူနီငှက်က သူချီလာတဲ့ ကျောက်တုံးကို လွှတ်ချပြန်တယ်၊ အဲဒီကျောက်တုံးကတော့ သင်္ဘောပေါ် တည့်တည့်ကျတယ်၊ သင်္ဘောလည်း အစိတ်စိတ်အမွှာမွှာကွဲပြီး ရေထဲကို နစ်မြုပ်သွားတယ်၊ သင်္ဘောပေါ်ပါလာတဲ့ ကုန်သည်တွေအားလုံး သေတဲ့လူက သေ… ရေနစ်တဲ့လူက နစ်ကုန်ကြတယ်။



I sank down through the water, but was able to take hold of a piece of wood. I swam with this to an island and got ashore. I found that there were trees everywhere, full of delicious fruit–indeed the island was like a beautiful garden.

As I wandered inland, I saw an old man sitting upon the bank of a stream. I thought he must have been shipwrecked like myself, and I went forward to greet him. He did not speak in reply, but signed to me to take him upon my back, pointing over the stream as if he wished to cross the water, and gather fruit on the other side.

ကျွန်တော်လည်း ရေထဲကို ကျပြီး မြုပ်သွားတယ်၊ ဒါပေမဲ့ သစ်တုံးတစ်ခုကို ဖက်တွယ်ထားနိုင်ခဲ့တယ်၊ အဲဒီ သစ်တုံးကိုဖက်ပြီး ကျွန်းလေးတစ်ခုဆီသို့ ကူးခတ်လာခဲ့တယ်၊ ပြီးတော့ ကမ်းခြေပေါ် ရောက်ပါတယ်။ ကျွန်းပေါ်က နေရာတကာမှာ သစ်ပင်တွေကို တွေ့ရတယ်၊ အရသာရှိတဲ့ သစ်သီးဝလံတွေကလည်း အလျှံပယ် အပြည့်အဝပဲ။ တကယ်ဆိုရင် အဲဒီကျွန်းက လှပတဲ့ ဥယျာဉ်တစ်ခုလိုပါပဲ။

ကျွန်းကိုလှည့်လည်ပြီး ကျွန်တော်ကြည့်တဲ့အခါ... စမ်းချောင်းလေးတစ်ခုရဲ့ ကမ်းပါးပေါ်မှာ အဘိုးအိုလေး တစ်ယောက်ကို တွေ့ရတယ်။ သူလည်း ကျွန်တော်လိုပဲ သင်္ဘောပျက်ပြီး ရောက်နေတဲ့ လူဖြစ်ရမယ်လို့ ကျွန်တော် ထင်ပါတယ်၊ ဒါကြောင့် သူ့ကို နှုတ်ဆက်ဖို့ သူ့ရှေ့သို့ သွားခဲ့တယ်။ သူက ကျွန်တော့်ကို ဘာမှ ပြန်လည်ပြောကြားမှု မပြုဘူး။ ဒါပေမဲ့... သူ့ကို ကျွန်တော့်ကျောကုန်းပေါ် ပိုးဖို့ ခြေဟန်လက်ဟန်နဲ့ ပြတယ်၊ ချောင်းရဲ့ တစ်ဖက်ကမ်းကို လည်း လက်ညှိုးညွှန်ပြတယ်။ ရေပြင်ကိုဖြတ်ပြီး တစ်ဖက် ကမ်းမှာရှိတဲ့ သစ်သီးတွေကို ခူးချင်တဲ့ပုံပဲ။



He seemed very weak and feeble, so I placed him on my back, and carried him across the stream. Then I bade him get down, and stooped so that he might do so. But instead he slipped his legs round my neck, and gripped me so tightly with them that I was nearly strangled. I saw that his skin was like that of a cow, and then, so tightly did he clasp his legs round my throat that I fell to the ground in a faint.

When I came to my senses, the old man was still about my neck. He kicked me roughly, and made me get up. I did so, and he forced me to walk about under the fruit trees, so that he might pick what he wanted.

သူကြည့်ရတာ သိပ်အားနည်းချည့်နဲ့နေပုံရတယ်၊ ဒါကြောင့် ကျွန်တော်က သူ့ကို ကျောကုန်းပေါ် ပိုးတယ်...။ စမ်းချောင်းကိုဖြတ်ပြီး သယ်ပို့ပေးတယ်။ ဟိုဖက်ကမ်းရောက်တော့... သူ့ကို ကျောကုန်းပေါ်က ဆင်းဖို့ ပြောတယ်၊ ဆင်းနိုင်အောင်လည်း ခါးကို ကုန်းပြီးပေးလိုက်တယ်၊ ဒါပေမဲ့... ကျောကုန်းပေါ်က ဆင်းမယ့်အစား... သူ့ခြေနှစ်ချောင်းနဲ့ ကျွန်တော့်လည်ပင်းကို ညှစ်တယ်၊ ကျွန်တော့်ကို အရမ်းတင်းတင်းကျပ်ကျပ် ညှစ်တဲ့အတွက်... ကျွန်တော့် လည်ပင်းအစ်ပြီး သေလုမတတ်ဖြစ်သွားတယ်။ သူ့အရေပြားကလည်း နွားသားရေလိုပဲ... ဆိုတာ ကျွန်တော်တွေ့ရတယ်၊ ပြီးတော့... သူ့ခြေချောင်းတွေနဲ့ ကျွန်တော့်လည်မျိုကို အရမ်းတင်းကျပ်နေအောင် ညှစ်ထားတဲ့အတွက် ကျွန်တော် သတိလစ်မေ့မြောပြီး မြေပြင်ပေါ် လဲကျသွားတယ်။

ကျွန်တော် သတိပြန်ရတဲ့အခါ အဘိုးကြီးက ကျွန်တော့် လည်ပင်းကို ချိတ်ထားတုန်းပါပဲ။ သူက ကျွန်တော့်ကို ကြမ်းကြမ်းတမ်းတမ်း ကန်ပြီး... အိပ်ရာက ထ စေတယ်။ ကျွန်တော်လည်း ထ ရပါတယ်၊ သူလိုချင်တဲ့အသီးကို သူ ခူးနိုင်ဖို့... သစ်သီးပင်တွေအောက်မှာ ကျွန်တော့်ကို လှည့်လည်ပြီး လျှောက်သွားစေတယ်... ဝှတ်အတင်းအကြပ်ခိုင်းတာ ပါပဲ။



I had no rest from him that day, but was forced to carry him about with me all the time. When night came, and I lay down, he lay down with me, but would not leave go his hold on my throat.

Every day I spent in the same way, carrying the horrible old creature about with me. I led a miserable life, and could not think how to get rid of him.

Then one day I found some empty gourds. I took up the largest and cleaned it. Then I pressed into it some grapes, and I left the juice there for some days. When I next came to the gourd, I drank the grape-wine I had made, and found it so good that I sang and shouted with joy.

အဲဒီနေ့... ကျွန်တော် သူ့ဆီကနေ အနားမရပါဘူး၊ တစ်ချိန်လုံး... သူ့ကို ကုန်းပိုးဖို့ ငွတ်အတင်းအကြပ် ခိုင်းတယ်။ ညရောက်လို့ ကျွန်တော်လဲလျောင်းတဲ့အခါ... သူလည်း ကျွန်တော်နဲ့အတူ လဲလျောင်းတယ်၊ ဒါပေမဲ့... ကျွန်တော့် လည်ပင်းကိုတော့ လွှတ်မပေးဘူး။

နေ့တိုင်း... ကျွန်တော့်ကျောကုန်းပေါ်မှာ ကြောက်ရွံ့ထိတ်လန့်ဖွယ်ကောင်းတဲ့ ဒီသတ္တဝါအိုကြီးကိုသယ်ဆောင်ပြီး ဒီနည်းအတိုင်း ကျွန်တော့်ရဲ့ အချိန်တွေကို ကုန်လွန်စေခဲ့ရပါတယ်၊ စိတ်မချမ်းမြေ့... စိတ်ပျက်စရာကောင်းတဲ့ ဘဝပါပဲ။ သူ့ကို ဘယ်လိုဖယ်ခွာရမယ်ဆိုတာလည်း မစဉ်းစားတတ်တော့ပါဘူး။

ဒီလိုနဲ့... တစ်နေ့ကျတော့ ဘူးသီးခြောက်တွေကို ကျွန်တော်တွေ့တယ်၊ အကြီးဆုံး ဘူးသီးခြောက်ကိုယူပြီး၊ သန့်ရှင်းစင်ကြယ်အောင် လုပ်တယ်၊ စပျစ်သီးတွေကို ညှစ်ပြီး စပျစ်ရည်ကို ဘူးသီးခြောက်ထဲထည့်တယ်။ အဲဒီအရည်ကို ရက်အနည်းငယ်ကြာအောင် ဒီအတိုင်းထားလိုက်တယ်။ အဲဒီနောက်... ဘူးသီးခြောက်ရှိတဲ့နေရာ ပြန်ရောက်တဲ့အခါ... ကျွန်တော်လုပ်ထားတဲ့ စပျစ်ဝိုင်ကို ကျွန်တော် သောက်ရတာပေါ့။ စပျစ်ဝိုင်က သိပ်ကောင်းတဲ့အတွက် (ခေါင်းထဲမှာ ရီဝေဝေဖြစ်လာပြီး) သီချင်းတွေ... ကို ပျော်ပျော်ရွှင်ရွှင်ကြီး အော်ဟစ်သီဆိုတယ်။



The old man signed to me to give him some I made him a gourd-full, and he drank it all off at once. He was not used to the drink, and it stupefied him and made him sleepy. When I found that he did not grip me so tightly with his legs, I gave a sudden jolt, and jerked him to the ground. He lay there without moving, and taking up a stone I slew the wicked creature without pity.



အဘိုးကြီးက သူ့ကိုအနည်းငယ်ပေးဖို့ ခြေဟန်လက်ဟန်နဲ့ အချက်ပြတောင်းဆိုတယ်၊ ကျွန်တော်က... စပျစ်ဝိုင်ကို ဘူးသီးခြောက်အပြည့် ပေးလိုက်တယ်၊ သူက ပေးလိုက်တဲ့စပျစ်ဝိုင်အကုန်လုံးကို ချက်ချင်းတစ်ပြိုင်နက်တည်းသောက်ချလိုက်တယ်။ သူက သောက်လေ့သောက်ထမရှိတော့... လူမှန်းမသိအောင်မူးပြီး... အိပ်ချင်စိတ်တွေပေါ်လာစေတယ်။ ကျွန်တော့်ကို သူ့ခြေထောက်တွေနဲ့ အရမ်း တင်းတင်းကြပ်ကြပ် ညှစ်မထားတော့တာလည်း တွေ့ရော... ကျွန်တော်က သူ့ကို ရုတ်တရက်လှုပ်ခါပြီး မြေပြင်ပေါ်သို့ ခပ်ဆတ်ဆတ်ပစ်ချလိုက်တယ်။ အဲဒီနေရာမှာပဲ... သူက မလှုပ်မရှားလဲနေတယ်။ ကျောက်တုံးတစ်တုံးယူပြီး ကောက်ကျစ်ယုတ်မာတဲ့ ဒီသတ္တဝါကြီးကို မညှာမတာ သတ်ပစ်လိုက်မိတယ်။



I ran down to the seashore, rejoicing with all my heart that I was free of my horrible burden. On the beach I met the crew of a ship who had landed to take in water. They were amazed to see me, and to hear my adventure.

"You fell into the hands of the Old Man of the Sea," they said. "No man has ever escaped from him before. He has strangled many hundreds of poor shipwrecked sailors, and richly deserved his death."



ကြောက်း ... ့ ဝန်ထုပ်ဝန်ပိုးကြီးကနေ လွတ်မြောက်း ... ဖူးလိုက်သည်းလှိုက် ဝမ်းမြောက်ဝမ်းသာဖြစ်ပြီး... ပင်လယ်ကမ်းစပ်ကို ပြေးဆင်းလာခဲ့တယ်၊ ပင်လယ်ကမ်းခြေမှာ သင်္ဘောတစ်စီးက သင်္ဘောသားတွေနဲ့ တွေ့တယ်၊ သူတို့က ရေသယ်ဖို့ ကမ်းခြေကို တက်လာခဲ့ကြတာ။ သူတို့က... ကျွန်တော့်ကို တွေ့ရ... ကျွန်တော့်ရဲ့ စိတ်လှုပ်ရှားဖွယ်အဖြစ်အပျက်တွေကို ကြားရ...တဲ့အခါ တအံ့တသြဖြစ်ကြတယ်။

"ခင်ဗျားက ပင်လယ်ပျော် အဘိုးအိုရဲ့ လက်ထဲ ကျရောက်ခဲ့တာကိုး...၊ အရင်ကဆိုရင်... ဘယ်သူမှ သူ့လက်က မလွတ်ခဲ့ဖူးဘူး၊ သင်္ဘောပျက်(လို့ ဒုက္ခရောက်)တဲ့ သင်္ဘောသားရာပေါင်းများစွာကို လည်ပင်းညှစ်ပြီး သတ်ခဲ့ဖူးပြီ...၊ ဒီလူကြီး သေဖို့ တကယ်ကို ထိုက်တန်ပါတယ်ဗျာ..." လို့ သူတို့က ပြောတယ်။



I put to sea with the crew, and soon we came to a great city. Here one of the merchants of the ship, with whom I had become friends, gave me a great bag.

"Go with the folk of this city," he said, "and they will take you to gather coconuts. Thus you will be able to obtain goods which you can trade in other places."

I took the bag, and went with the townsfolk, who were likewise laden with bags. We set out on a journey, and after a time came to a forest of great, tall trees, whose trunks were so smooth that it was impossible to climb them to reach the fruit.



အဲဒီ သင်္ဘောသားတွေနဲ့အတူ ကျွန်းတော် ပင်လယ်ပြင်ကို ထွက်ခဲ့တယ်၊ မကြာခင်မှာ... ဒိုကြီးတင်မြို့ကို ရောက်တယ်။ အဲဒီမြို့လည်း ရောက်ရော... သင်္ဘောပေါ်မှာ မိတ်ဆွေဖြစ်ခဲ့တဲ့ ကုန်သည်တွေအနက် တစ်ယောက်က ကျွန်တော့်ကို အိတ်အကြီးကြီးတစ်လုံးပေးတယ်။

"ဒီမြို့က လူတွေနဲ့ လိုက်သွားချေ..၊ သူတို့က ခင်ဗျားကို အုန်းသီးဆွတ်ဖို့ ခေါ်သွားလိမ့်မယ်၊ အဲဒီလိုဆိုရင်... အခြားနေရာတွေ ရောက်တဲ့အခါ... ခင်ဗျား ကူးသန်းရောင်းဝယ်နိုင်ဖို့ ကုန်ပစ္စည်းငွေ ရလိမ့်မယ်" လို့ သူ က ပြောတယ်။

ကျွန်တော်က အိတ်ကို ယူပြီး... မြို့ခံလူတွေနဲ့ လိုက်သွားတယ်၊ သူတို့လည်း ကျွန်တော့်လိုပဲ... အိတ်တွေ သယ်လာကြတယ်၊ ကျွန်တော်တို့ စတင်ပြီး ခရီးထွက်ကြတယ်၊ အချိန်အတော်ကြာတဲ့အခါ... မြင့်မားတဲ့ သစ်ပင်ကြီးတွေရှိရာ သစ်တောကို ရောက်လာကြတယ်။ အုန်းပင်တွေက မြင့်မား... ပင်စည်တွေက သိပ်ချောမွတ်နေတဲ့အတွက်... အသီးဆီရောက်အောင် သစ်ပင်ပေါ် တက်ဖို့ကတော့ မဖြစ်နိုင်ပါဘူး။



I wondered how we were to get the coconuts, but it was not long before I saw the way. The trees were full of monkeys, who seemed very angry at our arrival. The merchants took up stones, and flung them at the furious animals. This enraged them to such an extent that they plucked the coconuts and threw them down at us. Thus all we had to do was to gather up the nuts and place them in our bags. We soon had a great number, as you can imagine.



အုန်းသီးတွေ ရဖို့ ဘယ်လိုလုပ်ရမလဲ... လို့ ကျွန်တော် စဉ်းစားတယ်၊ ဒါပေမဲ့ သိပ်မကြာပီမှာပဲ အုန်းသီးရမယ့် နည်းလမ်းကို ကျွန်တော် သိခဲ့ပါပြီ။ သစ်ပင်တွေပေါ်မှာက မျောက်တွေ အပြည့်ပဲ။ သူတို့က ကျွန်တော်တို့ ရောက်လာတာကို အရမ်းစိတ်ဆိုးနေပုံရတယ်။ ကုန်သည်တွေက ကျောက်ခဲတွေ ကောက်ယူလိုက်တယ်။ ဒေါသထွက်နေတဲ့ သတ္တဝါတွေကို ကျောက်ခဲနဲ့ပစ်တယ်၊ အဲဒီလိုပစ်တာက သူတို့ကို အရမ်းဒေါသထွက်စေတဲ့ အတွက်... သူတို့ကလည်း အုန်းသီးတွေနဲ့ပြီး ကျွန်တော်တို့ကို ပြန်ပစ်တယ်၊ အဲဒီလိုနဲ့... ကျွန်တော်တို့အားလုံးလုပ်ရတဲ့ အလုပ်က အုန်းသီးတွေကို ကောက်ပြီး အိတ်ထဲထည့်ရတဲ့ အလုပ်ပါပဲ။ စဉ်းစားသာ ကြည့်ပါတော့ဗျာ... မကြာခင်မှာဘဲ ကျွန်တော်တို့တွေ... အုန်းသီး အများကြီး ရတာပေါ့။

I spent many days in this way, till I had a vast amount of nuts. Then, when a ship called into the port, I embarked on board, taking my nuts with me. We sailed to the Isles of Comari, where I exchanged my goods for pepper and wood of aloes. I then hired divers to go pearl-fishing for me, and they brought me up some very large, pure pearls.

With these goods I sailed to Balsora, and when I again reached Bagdad I sold my pepper, wood of aloes, and pearls for vast sums. I then gave away the tenth of my wealth to the poor, and once more settled down to enjoy my riches.



အုန်းသီးတွေ အများကြီးရလာတဲ့အထိ... ရက်ပေါင်းများစွာကို ဒီနည်းအတိုင်း ကုန်လွန်စေခဲ့ပါတယ်။ အဲဒီနောက်... ဆိပ်ကမ်းကို သင်္ဘောတစ်စီးဆိုက်လာတဲ့အခါ... ကျွန်တော့်အုန်းသီးတွေကိုပါ ကျွန်တော်နဲ့အတူ တစ်ခါတည်းယူပြီး သင်္ဘောပေါ်တက်တယ်။ ကိုမရိကျွန်းစုတွေဆီ ရွက်လွှင့်ထွက်ခွာခဲ့တယ်၊ အဲဒီမှာ ကျွန်တော့်ကုန်ပစ္စည်းတွေကို ငရုတ်ကောင်းတို့ အကျော်(ကရမက်)တို့နဲ့ လဲလှယ်တယ်၊ အဲဒီနောက်... ပုလဲငုပ်တဲ့လူတွေ ငှားပြီး ကျွန်တော့်အတွက် ပုလဲ ရှာခိုင်းတယ်၊ တော်တော်ကြီးတဲ့ ပုလဲစစ်စစ်တွေကို သူတို့က ယူဆောင်ပေးကြတယ်။

အဲဒီ ကုန်ပစ္စည်းတွေနဲ့အတူ... ဘာလ်ဆိုရာ ဆိပ်ကမ်းကို ပြန်လာခဲ့တယ်၊ ဘဂ္ဂဒက် ကို ပြန်ရောက်တဲ့အခါ... ကျွန်တော့်ရဲ့ ငရုတ်ကောင်း၊ အကျော် (ကရမက်)နဲ့ ပုလဲတွေကို ရောင်းချတယ်၊ ငွေတွေ အမြောက်အမြား ရရှိတယ်။ အဲဒီနောက် ကျွန်တော်ရရှိပိုင်ဆိုင်တဲ့ စည်းစိမ်ချမ်းသာတွေရဲ့ ဆယ်ပုံတစ်ပုံကို မရှိဆင်းရဲသားတွေအတွက် ပေးလှူတယ်။ ကျွန်တော့်ရဲ့စည်းစိမ်ချမ်းသာတွေကို ခံစားဖို့အတွက် တစ်ခါထပ်ပြီး အခြေချ နေထိုင်ခဲ့ပြန်ပါတယ်။



But on the way much misfortunate came upon us. Pirates attacked our ship, and took it. Those that defended themselves were killed, but I and some others who remained quiet were spared. We were all stripped of our clothes and given horrible rags to wear. Then the pirates took us to a far-off land and sold us as slaves.

A rich merchant bought me, and treated me well. He asked me if I knew any trade that I could follow.

"I am a merchant," I replied. "The pirates robbed me, and took me prisoner."

ဒါပေမဲ့ လပ်းခုလတ်ကိုလည်း ရောက်ရော... ကျွန်တော်တို့အတွက် ကံဆိုးမိုးမှောင်ကြီး ကျတော့တာပါပဲ။ ပင်လယ်ဓားပြတွေက ကျွန်တော်တို့သင်္ဘောကို တိုက်ခိုက်ပြီး... အပိုင်စီးသွားတယ်၊ ခုခံတဲ့လူတွေကို သတ်ပစ်တယ်၊ ဘာမှပြန်လည်မခုခံဘဲ ငြိမ်ငြိမ်လေးနေခဲ့တဲ့ ကျွန်တော်နဲ့ လူအချို့ကိုတော့ အသက်ချမ်းသာခွင့်ပေးတယ်၊ ကျွန်တော်တို့ရဲ့ အဝတ်အစားတွေကို ချွတ်ယူတယ်၊ အရမ်းကို ဆိုးဆိုးဝါးဝါး စုတ်ပြတ်နေတဲ့ အဝတ်အစားတွေကို ဝတ်ဖို့ပေးတယ်။ အဲဒီနောက်... ပင်လယ်ဓားပြတွေက ကျွန်တော်တို့ကို ဝေးကွာလှတဲ့ တိုင်းပြည်တစ်ပြည်ကို ခေါ်သွားပြီး... ကျွန်အဖြစ် ရောင်းစားကြတယ်။

ချမ်းသာတဲ့ ကုန်သည်ကြီးတစ်ယောက်က ကျွန်တော့်ကို ဝယ်တယ်၊ သူက ကျွန်တော့်ကို ကောင်းကောင်းမွန်မွန် ဆက်ဆံပါတယ်။ သူက... ကျွန်တော် နားလည်တတ်ကျွမ်းတဲ့ အရောင်းအဝယ်ကိစ္စတွေ ရှိသလားလို့ မေးတယ်။

“ကျွန်တော်က ကုန်သည်တစ်ယောက်ပဲ...၊ ပင်လယ်ဓားပြတွေက ကျွန်တော့်ကို လုယက်ပြီး အကျဉ်းသားအဖြစ် ခေါ်လာတာ...” လို့ ကျွန်တော်က ပြန်ပြောလိုက်တယ်။



"Can you shoot with bow and arrows?" he asked.

"I used to, when I was young," I answered. "I do not think I have forgotten how to do so, even now."

My master thereupon gave me a bow and arrows, put me behind him on an elephant, and took me to a great forest. At last he stopped, and showed me a large tree.

"Climb up the tree," he said. "Elephants will come by,and you must shoot them. If you kill one, come and tell me."

He left me there, and returned the way he had come. The next morning a great number of elephants came by. I shot my arrows among them, and slew one. When the great beasts had all gone, I ran to tell my master, who was full of joy to think that I had already killed an elephant for him

"လေးတွေ မြားတွေရော ပစ်တတ်လား" လို့ သူက မေးပြန်တယ်။

"ငယ်ငယ်ကတော့ သုံးလေ့သုံးထရှိခဲ့တာပဲ... အခုထိ ဘယ်လိုပစ်ခတ်ရမယ်ဆိုတာ မမေ့သေးဘူးလို့ ကျွန်တော် ထင်ပါတယ်" လို့ ကျွန်တော်က ဖြေလိုက်တယ်။

ကျွန်တော့်သခင်က ကျွန်တော့်ကို လေးနဲ့ မြားတွေ ချက်ချင်းပဲ ပေးအပ်တယ်၊ ဆင်တစ်ကောင်ပေါ်မှာ... သူ့နောက်ကနေ စီးစေပြီး တောနက်ကြီးတစ်ခုဆီကို ခေါ် သွားတယ်၊ နောက်ဆုံးကျတော့ သူက ရပ်တန့်လိုက်ပြီး... သစ်ပင်ကြီးတစ်ပင်ကို ပြတယ်။

"အဲဒီသစ်ပင်ပေါ်ကိုတက်နေ... အဲဒီအနားကို ဆင် တွေ လာလိမ့်မယ်။ သူတို့ကို မင်းက ပစ်သတ်ရမယ်။ ဆင် တစ်ကောင်ကို မင်းသတ်ပြီးရင်... ငါ့ကို အကြောင်းကြားပါ" လို့ သူက ပြောတယ်။

သူက ကျွန်တော့်ကို အဲဒီမှာထားခဲ့ပြီး... သူကတော့ သူလာခဲ့တဲ့လမ်းအတိုင်း လှည့်ပြန်သွားတယ်။ နောက်နေ့ မနက်မှာ... သစ်ပင်နားကို ဆင်တွေအများကြီး လာတယ်၊ ဆင်အုပ်ကြားထဲကို ကျွန်တော်က မြားတွေ ပစ်လွှတ်တယ်၊ တစ်ကောင်ကို သတ်လိုက်(နိုင်)တယ်။ ဒီတိရစ္ဆာန်ကြီးတွေ အားလုံးလည်း ထွက်သွားရော... ကျွန်တော့်သခင်ကို ပြောပြ ဖို့ အပြေးအလွှား သွားရောက်ခဲ့တယ်၊ ကျွန်တော်က သူ့ အတွက် ဆင်တစ်ကောင်ကို သတ်ခဲ့တယ်လို့ သိရတော့ အရမ်းကို ကျေနပ်ဝမ်းမြောက်သွားတယ်။



We returned to the forest, and dug a hole in which we buried the great creature, for my master meant to come and get the ivory tusks later. Then he bade me climb my tree again, and continue my shooting.

For two months I did this, and shot many elephants. Then one day a dreadful thing happened. All the elephants in the forest came to my tree, and stood around me!

The earth shook under their feet, and the noise was terrible. They surrounded my tree, and stood staring at me, with their great trunks stretched out. I was so frightened that my bow and arrows fell from my hands.

သစ်တောကြီးဆီ ကျွန်တော်တို့ ပြန်သွားခဲ့တယ်၊ ကွင်းကြီး တစ်ကွင်းတူးပြီး... ကြီးမားလှတဲ့ ဒီသတ္တဝါကြီး (ဆင်သေ)ကို မြှုပ်တယ်။ ဘာကြောင့်လဲဆိုတော့... ကျွန်တော့်သခင်က... ဆင်စွယ်ကို နောက်မှလာယူမယ်လို့ ရည်ရွယ်လို့လေ...။ အဲဒီနောက်... သူက ကျွန်တော့်ကို သစ်ပင်ပေါ် ပြန်တက်ပြီး ဆင်တွေကို ဆက်လက်ပစ်ခတ်ဖို့ အမိန့်ပေးတယ်။

နှစ်လလောက်ကြာအောင်... ကျွန်တော်က အဲဒီအလုပ်ကို လုပ်ကိုင်ခဲ့ပြီး... ဆင်ငှတွေအများကြီးကို ပစ်သတ်ခဲ့တယ်၊ အဲဒီနောက်... တစ်နေ့မှာ ကြောက်စရာကောင်းတဲ့ အရာတစ်ခု ဖြစ်ပျက်ခဲ့ပါတယ်။ တောထဲမှာရှိတဲ့ ဆင်တွေအားလုံး ကျွန်တော့်သစ်ပင်နားကို ရောက်လာကြတယ်၊ ကျွန်တော့် ပတ်ပတ်လည်မှာ ရပ်နေကြတယ်!

သူတို့ခြေထောက်တွေအောက်မှာ မြေကြီးက သိမ့်သိမ့် တုန်နေတယ်၊ အသံတွေကလည်း ကြောက်စရာကောင်းလှပါတယ်။ သူတို့က ကျွန်တော့်သစ်ပင်ကို ဝိုင်းရံထားကြတယ်၊ ကျွန်တော့်ကို စူးစိုက်ကြည့်ရင်း ရပ်လိုက်ကြတယ်၊ သူတို့ နှာမောင်းကြီးတွေကို မြှောက်ပြီး ဆန့်ထုတ်ထားကြတယ်။ ကျွန်တော်က အရမ်းကို ကြောက်လန့်သွားတဲ့အတွက် ကျွန်တော့်လက်ထဲက လေးနဲ့ မြားတွေ လွတ်ကျသွားတယ်။



Then the biggest of the elephants advanced to my tree, and wrapped his trunk around it. He pulled it straight up by the roots, and flung it to the ground. I fell with it, and lay like a dead man. The elephant picked me up, and put me on his back, then started off through the forest, followed by all the rest.

I was too terrified to move, and thought surely I was going to my death. After some time I felt myself being put down on the ground. Then all the elephants went away and left me by myself.

I sat up and looked around me. Imagine my astonishment when I saw that I was on a long, high hill, covered with the bones and tusks of hundreds of elephants!

အဲဒီနောက်...ဆင်တွေထဲက အကြီးဆုံးတစ်ကောင်ဟာ ကျွန်တော့်သစ်ပင်ရှိတဲ့ဆီ တိုးထွက်လာပြီး... သစ်ပင်ပင်စည်ကို သူ့နှာမောင်းနဲ့ ပတ်လိုက်တယ်။ သစ်ပင်ကို အမြစ်ကနေ ဆွဲနုတ်ပြီး မြေပြင်ပေါ်သို့ ပစ်ချလိုက်တယ်။ ကျွန်တော်လည်း သစ်ပင်နဲ့အတူ ကျသွားတယ်... လူသေတစ်ယောက်လို လဲလျောင်းနေတယ်။ ဆင်ကြီးက ကျွန်တော့်ကို ကောက်ယူပြီး သူ့ကျောကုန်းပေါ် တင်လိုက်တယ်။ ပြီးတော့... တောကို ဖြတ်ပြီး စတင်ထွက်ခွာသွားတယ်၊ ကျန်တဲ့ဆင်အားလုံး က သူ့နောက်က လိုက်လာကြတယ်။

ကျွန်တော်ဟာ မလှုပ်နိုင်လောက်အောင်ကို ထိတ်လန့်လွန်းနေပါတယ်၊ ကျွန်တော်တော့ ကျိန်းသေမုချ သေရတော့မယ်လို့ ထင်နေပိတယ်။ အချိန်အနည်းငယ်ကြာပြီးတဲ့နောက်မှာ... ကျွန်တော့်ကို မြေပြင်ပေါ်သို့ ချထားလိုက်

ကျွန်တော်က ထထိုင်လိုက်ပြီး ဝန်းကျင်ပတ်လည်ကို လှည့်ကြည့်လိုက်တယ်၊ ကျွန်တော်ဟာ ရှည်လျားမြင့်မားတဲ့ တောင်ကုန်းတစ်ခုပေါ် ရောက်နေတယ်၊ ရာပေါင်းများစွာသော ဆင်တွေရဲ့ အရိုးတွေ ဆင်စွယ်တွေကို တွေ့ရတယ်...! ကျွန်တော် အံ့သြရတာ... အံ့အားသင့်ရတာကို စဉ်းစားသာ ကြည့်ပါတော့ဗျာ...။



"This must be the hill where they come to die!" I cried. "Oh, the wise beasts! They have brought me here to show me that I can get tusks from dead animals, and so do not need to slay the living!"

I at once went to seek my master, and after travelling for twenty-four hours. I came to him. He was delighted to see me, having thought that I had been killed by the elephants, like most of his other slaves.

When I took him to the hill of the elephants, he was filled with astonishment and delight.



"ဒီတောင်ကုန်းဟာ ဆင်တွေလာသေတဲ့ တောင်ကုန်း ဆင်သင်္ချိုင်း ဖြစ်ရမယ်...!"။ "အိုး... ဉာဏ်ရှိလိုက်တဲ့ ဆင်တွေ ပဲကွာ!... သူတို့ ကျွန်တော့်ကို ဒီခေါ် လာတာက ဆင်စွယ် တွေ လိုချင်ရင်... ဆင်သေတွေရဲ့ အစွယ်ကို ရနိုင်တယ်။ သက်ရှိဆင်တွေကို သတ်ဖို့မလိုဘူး... ဆိုတာ ပြချင်လို့ကိုး!" လို့ ကျွန်တော်က တအံ့တသြ ကြွေးကြော်ပြောဆိုမိတယ်။

ကျွန်တော့်သခင်ကို ရှာဖို့ ချက်ချင်းပဲ ကျွန်တော် ပြန်သွားတယ်၊ နှစ်ဆယ့်လေးနာရီလောက် သွားပြီးတဲ့အခါ... ကျွန်တော် သူ့ဆီရောက်သွားတယ်။ ကျန်တဲ့ သူ့ကျွန်အများစု လိုပဲ... ကျွန်တော်ကိုလည်း ဆင်တွေသတ်လို့ သေပြီ... ထင် နေတဲ့ သခင်က... ကျွန်တော့်ကို တွေ့လိုက်တော့ ဝမ်းသာ အားရ ဖြစ်သွားတယ်။

ကျွန်တော်က သူ့ကို ဆင်တွေရဲ့ တောင်ကုန်း (ဆင် သင်္ချိုင်း) ကို ခေါ် သွားတဲ့အခါ... အရမ်းကို အံ့သြဝမ်းသာ ဖြစ်သွားတယ်။



"Now my fortune is made!" he cried. "And yours too, O Sindbad, for I will see to that myself!"

We spent some months in filling his warehouses with ivory, and then, when a ship called at the port, I went aboard, meaning to return home. My master gave me a great cargo of ivory and many rich presents. Then I set sail, rejoicing that my adventure had ended so well.



"အခုချိန်ကစပြီး... ငါ့ရဲ့ ကံ... ထလာပြီ၊ ကံကောင်းကြုံပြီဟေ့...! မင်းလည်းပဲပေါ့ ဆင်းဘတ် ။ ဘာကြောင့်ဆို ဒီလုပ်ငန်းကို ငါကိုယ်တိုင် လုပ်ကိုင်နိုင်ပြီ (ဆိုတော့ မင်းကို ကျွန်အဖြစ်က လွတ်လပ်ခွင့်ပေးနိုင်ပြီ)!" လို့ သူက ပြောတယ်။

သူ့ရဲ့ ကုန်လှောင်ရုံထဲကို ဆင်စွယ်တွေ ထည့်သွင်းသိုလှောင်ရတာ... လ တော်တော်လေး ကြာပါတယ်။ အဲဒီနောက်ပိုင်း... သင်္ဘောဆိပ်မှာ သင်္ဘောတစ်စီး လာဆိုက်တယ်၊ ကျွန်တော်လည်း ဇာတိကိုပြန်ဖို့ ရည်ရွယ်ပြီး သင်္ဘောပေါ် တက်ခဲ့တယ်။ ကျွန်တော့်သခင်က ကျွန်တော့်ကို ဆင်စွယ်တွေ အများကြီးသင်္ဘောပေါ် တင်ပေးလိုက်တယ်၊ အဖိုးတန်လက်ဆောင်ပစ္စည်းတွေ အများကြီးကိုလည်း ပေးလိုက်တယ်၊ အဲဒီနောက် ကျွန်တော် ရွက်လွှင့်ထွက်ခွာခဲ့တယ်၊ ကျွန်တော့်ရဲ့ စွန့်စားခန်းဟာ ခုလို ကောင်းကောင်းမွန်မွန် ချောချောမောမောနဲ့ အဆုံးသတ်ခဲ့လို့ ဝမ်းမြောက်ဝမ်းသာ ဖြစ်ပြီးတော့ပေါ့လေ... ။



As soon as my ship touched at the mainland I went ashore, for I thought I would prefer to go overland to Balsora, rather than over sea, for I did not know what other strange adventure might come to me on the water. I sold my ivory, and with the great sums I got by it, I bought wonderful presents for my friends.



ကျွန်တော်စီးလာတဲ့ သင်္ဘောက... ကျွန်းမဟုတ်တဲ့ ကုန်းမ (ပြည်မ)ကြီးကို ဆိုက်ကပ်လျှင် ဆိုက်ကပ်ခြင်းပဲ... ကျွန်တော် သင်္ဘောပေါ်ကဆင်းပြီး ကမ်းပေါ်တက်ခဲ့တယ်။ ဘာကြောင့်ဆို ဘာလ်ဆိုရာ ကို ကုန်းလမ်းခရီးနဲ့ သွားတာက ပင်လယ်ရေလမ်းခရီးနဲ့ သွားတာထက် ပိုကောင်းမယ်လို့ ကျွန်တော်ထင်လို့ပါပဲ။ ဘာကြောင့်လဲဆိုတော့ ရေကြောင်းခရီးနဲ့သွားရင် ဘယ်လို ထူးဆန်းအံ့ဩဖွယ် အဖြစ်အပျက်တွေ... စွန့်စားခန်းတွေနဲ့ တွေ့ကြုံရဦးမယ်ဆိုတာ ကျွန်တော် မသိလို့ပါပဲ။ ကျွန်တော် ဆင်စွယ်တွေကို ရောင်းချတယ်... ငွေကြေး အမြောက်အမြား ရရှိတယ်။ ရတဲ့ငွေကို ကျွန်တော့် မိတ်ဆွေသူငယ်ချင်းတွေအတွက် ထူးခြားကောင်းမွန်တဲ့ လက်ဆောင်ပစ္စည်းတွေ ဝယ်တယ်။

Then I set out in company with a large caravan of merchants, and at last came safely to Bagdad. I went at once to the caliph, who was glad to see me, for he had thought I must be dead, since I was such a long time away.

And now, for the last time, I settled down in peace and happiness, resolved never again to set out on a voyage. Thus ends the last adventure of old Sindbad the Sailor.



ဂဲဂီနောက်... ဗဒင်မဝါနံ့ဂျီနွမားဟဲ့ လှည့်ကုန်သည့် အုပ်ရုကြီး ကာစ်မုန့်ဟတ္တ... ကျွန်တော် ထွက်ခွာခဲ့ပါတယ်၊ နောက်ဆုံး... ဘေးမသိရန်မခဘဲ... ဘဂ္ဂဒက် မြို့တော်ကြီးကို ပြန်လည်ရောက်ရှိခဲ့ပါတယ်။ ခါလစ် ဆီကို ကျွန်တော် ချက်ချင်းပဲ သွားရောက်တွေ့ဆုံတယ်။ ကျွန်တော့်ကို တွေ့လိုက်ရတော့... သူ... ဝမ်းမြောက်ဝမ်းသာ ဖြစ်သွားတယ်။ ဘာကြောင့်ဆို... ကျွန်တော် ခုလိုအကြာကြီး ပျောက်သွားပဲ့ အတွက်... ကျွန်တော် သေသွားတာဖြစ်ရမယ်လို့ သူက ထင်နေတာကိုး။

အခုဆိုရင် နောက်ဆုံးအကြိမ်အဖြစ်... ငြိမ်းငြိမ်း ချမ်းချမ်း ပျော်ပျော်ရွှင်ရွှင်နဲ့ အခြေချနေထိုင်လိုက်ပါပြီ၊ ပင်လယ်ရေကြောင်းခရီးကို နောက်တစ်ကြိမ်ထပ်ပြီး ဘယ်တော့မှ မထွက်တော့ဘူးလို့လည်း ဆုံးဖြတ်လိုက်ပါတယ်။ ဒီလိုနဲ့ပဲ... သင်္ဘောသား ဆင်းဘတ် ရဲ့ နောက်ဆုံးအကြိမ် စွန့်စားခန်းကြီးဟာ နိဂုံးချုပ် အဆုံးသတ်ခဲ့ပါတော့တယ်။



●မောင်သိန်းလွင်